# လူငယ်များအတွက် ဒိန်ခဲ

(အပြောင်းအလဲများကို ရင်ဆိုင်ကျော်ဖြတ်၍ အောင်မြင်မှုကို ရယူနိုင်မည့် ထူးဆန်းထွေလာ နည်းလမ်းအဖြာဖြာ)

**ငါ့ဒိန်ခဲကို ဘယ်သူနေရာရွှေ့ထားသလဲ** သည်ပုံ ဆောင် ဝတ္ထုကလေး တစ်ပုဒ်မျှသာဖြစ်ပါသည်။ အပြောင်း အလဲနှင့် နပန်းလုံးနေရသည့် လူသန်းပေါင်း များစွာ အား အထောက်အကူပြုသည့် စာအုပ်ကလေး ဖြစ်သွား သည်။ ပုံပြင်ဆန်ဆန် ဒဏ္ဍာရီကလေးမှာ ပျော်စရာ ရွှင်စရာ ကလေးများဖြင့် ပါးပါးလေး ပညာပေးသွား သော ဒဏ္ဍာရီ ကလေးဖြစ်ပါသည်။

ဇာတ်လမ်းထဲတွင် ဇာတ်ကောင် လေးဦးပါဝင်သည်။ သူတို့အားလုံး ဝင်္ကပါတပ်ခုထဲတွင် နေကြသည်။ သည် ဝင်္ကပါထဲတွင် သူတို့အတွက်စားစရာသည် ဒိန်ခဲဖြစ် သည်။

ဇာတ်ကောင်နှစ်ဦးမှာ ကြွက်ကလေး နှစ်ကောင်ဖြစ် သည်။ တစ်ကောင် ၏အမည်က "စနစ်ဖ်၊ နောက်တစ်

ကောင်က "စကားရီး"။ နောက်နှစ်ယောက်က လူသေး သေးကလေးတွေ။ ကြွက်ကလေးတွေနှင့်ရွယ်တူ၊ သို့ သော် တကယ့်လူတွေနှင့် တထေရာတည်းတူသည့် လူပေါက်စ ကလေးများဖြစ်သည်။ သူတို့နာမည်တွေက "ဟမ်"နှင့်"ဟော"။

"ဒိန်ခဲ" ကို သည်ဇာတ်လမ်းတွင် ဘဝရည်မှန်းချက် ပန်းတိုင်အဖြစ် တင်စားထားသည်။ ကျောင်းတုန်းက အမှတ်တွေကောင်းခဲ့သလား။ အသင်းအဖွဲ့တွေမှာပါခဲ့ သလား။ ကျောင်းပြီးတော့ .. အလုပ်ကောင်းကောင်းရ သလား။ ချစ်သူရွေးရာမှာကော .. စိတ်တိုင်းကျရဲ့လား။ ပြီးတော့ ကိုယ့်ဘဝကိုယ် ကျေနပ်မှုရှိနေရဲ့လား။ စသည် စသည်။

အဲ..ဝက်ပါကတော့ ခင်ဗျား လိုချင်တာ ရှာဖွေနေတဲ့ ဒေသ တစ်ခုပေါ့။ ကျောင်း ဖြစ်ချင်ဖြစ်မည်။ လုပ်ငန်း ခွင်ဖြစ်ချင်ဖြစ်မည်။ အားကစားကွင်းတစ်ခု ဖြစ်ချင် ဖြစ်မည်။ ခင်ဗျားရဲ့မိသားစု ဖြစ်ချင်ဖြစ်မည်။ ... ခင်ဗျားနေတဲ့ ပတ်ဝန်းကျင် အသိုင်းအဝိုင်း ဖြစ်ချင်

ဖြစ်မည်ပေါ့။ ဇာတ်လမ်းထဲတွင် ဇာတ်ကောင်အားလုံးသည် မမျှော်လင့်သော အပြောင်းအလဲများနှင့် ရင်ဆိုင်ခဲ့ကြရသည်။ နောက်ဆုံးတွင် သူတို့ အထဲမှ တစ်ယောက်သည် ပြဿနာကို အောင်မြင်စွာ ကျော်ဖြတ်နိုင်ခဲ့သည်။ သူက သူ့အတွေ့အကြုံများကို ဝက်ပါနံရံတွင်ရေးသည်။

နံရံပေါ်မှ ထိုလက်ရေးကို မြင်ရသူတိုင်းက သည်လို အခက်အခဲနှင့် ကြုံလျှင်မည်သို့မည်ပုံ ရင်ဆိုင်ဖြေရှင်းရသည်ကို သိရှိသွားလေသည်။ မည်သည့်အပြောင်းအလဲ၊ အချိုးအကွေ့တွင် မည်သည့်တက်နှင့်လှော်ရမည်ကို နားလည်သွားသည်။ အကြောက်တရားများကို မည်သို့ ကျော်လွှားပြီး ပို၍ကောင်းမွန်သည့် တစ်နေရာကို မည်သို့ အရောက်သွားရမည်ဆိုသည့် နိဿရများကို သိရှိနားလည်သွားလေတော့သည်။

လူသန်းပေါင်းများစွာတို့က သူတို့၏ ဘဝ အထွေထွေ၊ သူတို့၏ အိမ်ထောင်အခြေအနေများကို တိုးတက်

ကောင်းမွန်စေပါသည်ဆိုသော သည်ဒဏ္ဍာရီကလေးကို ယခု သင် ဖတ်ခွင့်ရခဲ့ပါပြီ။

ဖတ်ပြီးလျှင် သည်ဝတ္ထုနှင့်ပတ်သက်သည့် လူငယ်များ ဆွေးနွေးဖလှယ်ခန်းက သင့်အား လက်တွေ့သင်ခန်းစာများ ပေးပါလိမ့်မည်။ ထိုအခါ သင်သည်လည်း ဒိန်ခဲနှင့်အတူ ရွှေ့လျားနိုင်ပြီး ဒိန်ခဲကို စားသုံးနေနိုင်ပါလိမ့်မည်။

## စာရေးဆရာ၏ အတ္ထုပ္ပတ္တိ

စပင်ဆာဂျွန်ဆင်၊ အမ်ဒီသည် ကမ္ဘာပေါ်တွင် လူချစ် လူခင် အများဆုံး၊ လူရှိသေရှင်ရှိသေ စာရေးဆရာများ ထဲတွင် တစ်ယောက်အပါအဝင်ဖြစ်သည်။ စာဖတ်သူ များ၏ နှလုံးသားဆီသို့ တိုက်ရိုက်ရောက်သည့် စူးရှထက်မြက်သော သူ့စာအုပ်များကို လူတွေ သန်းချီ ဖတ်နေကြသည်။ ရှုပ်ရှုပ် ထွေးထွေး ပြဿနာများကို ရိုးရိုးလေးနှင့် ရှင်းအောင် အရေးနိုင်ဆုံး စာရေးဆရာ အဖြစ် အားလုံးကအသိ အမှတ် ပြုထားကြသည်။

ဒေါက်တာဂျွန်ဆင်သည် နယူးယောက်တိုင်းမ်စ် တွင် တောက်လျှောက်ရေးနေသည့် စာရေးဆရာဖြစ် သည်။ သူ၏ ရောင်းအကောင်းဆုံးစံချိန်တင်ထားသည့် စာအုပ်မှာ Who Moved My Cheese ဖြစ်သည်။ ပြီးတော့ An Amazing Way to deal with Changes at Work and in life နှင့် The One Minute Manager တို့ဖြစ်သည်။ The One Minute Managerမှာ Kenneth Blanchard နှင့် တွဲရေး သည့်စာအုပ်ဖြစ်ပြီး ကမ္ဘာပေါ်တွင်

အကောင်းဆုံး စီမံခန့်ခွဲရေး အတတ်ပညာစာအုပ်အဖြစ် နာမည်ကြီးသည်။

သူသည် ဘီအေဘွဲ့ကို စိတ်ပညာဖြင့် ကယ်လိဖိုးနီးယား တောင်ပိုင်းတက္ကသိုလ်မှရခဲ့ပြီး အမ်ဒီဆေးပညာဘွဲ့ကို Royal Collage of Surgeon မှ ရရှိခဲ့သည်။ ထို့နောက် Harvard Medical School နှင့် The Mayo Clinic တွင် ဆေးပညာ ဆက်လက်ဆည်းပူးခဲ့သည်။ ဒေါက်တာဂျွန်ဆင်သည် The Inventors Cardiac Pacemackers Medical Director of Commu-nication for Medtronic အဖြစ်တာဝန် ထမ်းဆောင်ခဲ့သည်။ Institute for Interdisciplnary Studies တွင် သုတေသန သမားတော်အဖြစ်လည်းကောင်း၊ Center for the study of the Person နှင့် ကယ်လီဖိုးနီးယားတက္ကသိုလ် School Medicine တွင် အကြံပေး ပါရဂူအဖြစ်လည်းကောင်း၊ Har- vard Business School og Leadership fellow အဖြစ်လည်းကောင်းအမှုထမ်းခဲ့သည်။ သူ့စာအုပ်များသည် CNN, The Today Show, Larry King Live, Basiness

Week, The New York Times, Wall Street Journel, Fourtune, USA Today, Associated Press ESifh United Press စသည့် မီဒီယာအမျိုးမျိုးတွင် စင်တင်ခံရလေ့ရှိသည်။ စပင်ဆာဂျွန်ဆင်၏ စာအုပ်များသည် ကမ္ဘာ အရပ်ရပ်တွင် ဘာသာနှစ်ဆယ့်ခြောက်မျိုးဖြင့် ရောင်းချလျက်ရှိသည်။

အင်တာနက်မှ ရှာယူလိုလျှင်

www.whomovedmycheese.com တွင် ရှာနိုင်ပါသည်။

## ရေးသူမှဖတ်သူသို့

"ငါ့ဒိန်ခဲကို ဘယ်သူ နေရာရွှေ့ထားသလဲ" ပထမ မူရင်းကိုဖတ်ဖူးကြသည့် ကမ္ဘာအရပ်ရပ်မှ စာဖတ်သူများကပြောကြသည်။ သည်ဒိန်ခဲဇာတ်လမ်းကို သူတို့ငယ်ငယ်ကတည်းက ဖတ်ရရင်ဘယ်လောက်ကောင်းမလဲတဲ့။ သူတို့၏ ဘဝအထွေထွေသည် ပို၍အဆင်ပြေလိမ့်မည်ဟု သူတို့ သဘောပေါက်သွားကြခြင်းဖြစ်သည်။ မိဘများအဖြစ်၊ အဘိုးအဘွားများအဖြစ်ထက် လူငယ်များအနေဖြင့် ဘဝတွင်အပြောင်းအလဲတွေ၊ အချိုးအကွေ့တွေ ပို၍များနိုင်သည် မဟုတ်ပါလား။ သည် အပြောင်းအလဲ၊ အချိုးအကွေ့များအကြောင်း ငယ်ငယ်က တည်းက သိထားလျှင်ပို၍မကောင်းပါလား။ ပို၍အောင် မြင်မှုမရနိုင်ပါလား။

သည်ဇာတ်လမ်းတွင် သူများတကာထက် အပြောင်းအလဲ အကြောင်းကို သင်ပို၍စောစီးစွာ ရှာဖွေ တွေ့ရှိနိုင်ကြောင်း၊ မည်သည့်အပြောင်းအလဲကို အလေးအနက်ထားရမည်၊ မည်သည့်အပြောင်းအလဲကို သာမန်

သဘောထားရမည့်အကြောင်းများကို သင်တွေ့ရမည် ဖြစ်ပါသည်။ မည်သည့် အပြောင်းအလဲမျိုးတွင် အမြန်ဆုံး အသုံးချပြီး ဒိန်ခဲနှင့်အတူ လိုက်ရွှေ့ဖို့ တစ်နည်းအားဖြင့် အပြောင်းအလဲကို ဘဝတွင် အသုံး ချဖို့ကိုလည်း တွေ့ရမည်ဖြစ်ပါသည်။

အပြောင်းအလဲ တစ်မျိုးမျိုးနှင့် သင်ရင်ဆိုင်ရပြီ ဆိုလျှင်သည် စာအုပ်ထဲတွင် ရှာဖွေတွေ့ရှိထားသည့် အကြောင်း တစ်မျိုးမျိုးဖြင့် သင့်ကိုယ်ပိုင် ဒိန်ခဲ လတ်လတ် ဆတ်ဆတ်ကို ရှာဖွေတွေ့ရှိနိုင်လိမ့်မည်ဟု စာရေးသူ မျှော်လင့်ပါသည်။ ယင်းဒိန်ခဲသည် သင့် အတွက် အရေးကြီးသည့် ပန်းတိုင်တစ်ခု ဖြစ်ပါ လိမ့်မည်။ ပျော်ရွှင်စွာ စားသုံးပါလေ။

(စပင်ဆာဂျွန်ဆင်)

## “ငါ့ဒိန်ခဲကို ဘယ်သူနေရာရွှေ့ထားသလဲ” သည်ထူးခြားသည့်ဝိသေသရှိသော ကတ်လမ်းလား။

စပင်ဆာဂျွန်ဆင်သည် “ဒိန်ခဲ”ကို သူ့ဘဝ အခက်အခဲ၊ အပြောင်းအလဲများအား ရင်ဆိုင်ဖြတ်ကျော် ရာတွင် အထောက်အကူဖြစ်ဖို့ ရေးဖွဲ့ခဲ့သည်။ သည်လို အပြောင်းအလဲများနှင့်ကြုံလျှင် မည်သို့ အလေးအနက် ထားရမည်ကို ညွှန်ပြသည့်စာအုပ်ဖြစ်သည်။ သို့သော် သူကိုယ်တိုင်ကမူ .. သည်မျှအလေးအနက်မထားခဲ့ပေ။ သူ့အခြေအနေတိုးတက်လာလို့ သူ့သူငယ်ချင်း တွေက ဝိုင်းမေး ကြတော့ သူက ဒိန်ခဲဇာတ်လမ်းကို ပြော ပြသည်။ နှစ်ပေါင်းများစွာ ကြာသည့်အခါ အားလုံးက ဝိုင်း ပြောကြသည်။ သည်ဇာတ်လမ်းကြောင့် သူတို့ တတွေ ဟာဒယနှလုံး ရွှင်ပြုံးကြရကြောင်း၊ တစ်ပြိုင် တည်းတွင် အပြောင်းအလဲများကို ကျော်ဖြတ်ပြီး အခြေ အနေတွေ မည်သို့မည်ပုံ ကောင်းမွန်တိုးတက်နိုင် ကြောင်း၊ စသည် စသည်. . . .

သည်တော့မှ The One Minute Manager ကို သူနှင့်အတူ ပေါင်းရေးသည့် Ken Blanchard ကအားလုံး နှင့်အတူ မျှဝေခံစားနိုင်အောင် စာအုပ်ရေးဖို့ တိုက်တွန်းခြင်းဖြစ်သည်။ သို့သော် နှစ်ပေါင်း နှစ်ဆယ် ကြာမှ Who Moved My Cheeseကိုရေးပြီးသည်။ စာအုပ်ဖြန့်ဝေတော့ ဝက်ဝက်ကွဲရောင်းစွံသည့်စာအုပ် ဖြစ်သွားသည်။ ကမ္ဘာ့ ရောင်းအကောင်းဆုံး စာအုပ် စာရင်း ဝင်သွားသည်။ ပထမ ဆယ့်ခြောက်လအတွင်း ကတ်ထူဖုံးစာအုပ် . တစ်သန်းကျော် ရိုက်ခဲ့ရသည်။ နောက် နှစ်နှစ်အတွင်း ဆယ်သန်းကျော် ထပ်ရိုက် ရသည်။

စာဖတ်သူများက လုပ်ငန်းခွင်တွင်ရော၊ ကျန်းမာရေး နှင့် အိမ်ထောင်ရေးတွင်ပါ တိုးတက်အောင်မြင် လာခဲ့ ကြောင်းကို "ဒိန်ခဲ" မှရရှိခဲ့သည် ဟူသည့်သတင်း များထွက်လာသည်။ "ဒိန်ခဲ" ဇာတ်လမ်းသည် အိမ်တွေ၊ စာသင်ကျောင်းတွေ၊ ဘုရားရှိခိုးကျောင်းတွေ၊ စစ်တပ် တွေအပြင် အားကစားအသင်းများဆီအထိ ထိုးဖောက်

သွားခဲ့သည်။ ဘာသာပေါင်း များစွာဖြင့် ကမ္ဘာအရပ်ရပ်သို့ ပြန့်နှံ့သွားခဲ့သည်။ နိုင်ငံတကာစာဖတ် သူများ၏ရင်ထဲသို့ ရောက်သွားသည်။

သို့သော် ဝေဖန်ရေးဆရာများက တစ်မျိုးမြင် သည်။ သူတို့က “ဒိန်ခဲ” ကို နားမလည်ကြောင်း၊ လူတွေဘာကြောင့် ကြိုက်နေကြမှန်း သူတို့ မသိကြောင်း၊ ဝေဖန်ကြသည်။ ဇာတ်လမ်းမှာ ဘာမှထူးခြားမှု မရှိသည့် ရိုးရိုး ဇာတ်လမ်းကလေးဖြစ်၍ ကလေးတစ်ယောက်ပင် ဖတ်နိုင်၊ နားလည်နိုင်ကြောင်း၊ ပေါ့ရွှတ်ရွှတ်နိုင်လွန်းသဖြင့် ကလေးများကိုပင် စော်ကားရာရောက်နေကြောင်း၊ ဒီစာ အုပ်ဖတ်ပြီး ဘာမျှမရကြောင်း၊ စသည်ဖြင့် ဝေဖန်ကြ သည်။ ဇာတ်လမ်းထဲတွင် မပါသော်လည်း အပြောင်း အလဲကို တလွဲဆွဲတွေးပြီး အတွေးခေါင်သောလူများ အတွက် အန္တရာယ်ပင်ရှိနိုင်ကြောင်းထောက်ပြကြသည်။ စာရေးဆရာက သူ့စာအုပ်ကို ကြိုက်သူများ သာမက ဝေဖန်ရေးများအတွက်ပါ ပြန်ကြားသည်။ နှစ် ဖက်စလုံး သူ့နည်းနှင့်သူမှန်ပါသည်တဲ့။ Who Moved My Cheese ကို

ချဉ်းကပ်ပုံချဉ်းကပ်နည်းအပေါ် ကွဲပြားသွား တာပါတဲ့။ ကိုယ့်အခြေအနေနှင့်ကိုယ် အဓိပ္ပာယ်ဖွင့်ဆို ကြပြီး တန်ဖိုးဖြတ်ကြတာပါဟု ဆိုသည်။

ယခု သင်ဖတ်နေသည့် "လူငယ်များအတွက် ဒိန်ခဲ" သည် လတ်ဆတ်သည့်ဒိန်ခဲကို သင်ရှာဖွေတွေ့နိုင်ဖို့ သင့်ဘဝကို လမ်းညွှန်ဖို့ လမ်းပြကြယ်ဖြစ်လိမ့်မည်ဟု ကျွန်တော် မျှော်လင့်ပါသည်။ သင်နှင့်ထိုက်တန်သည့် ဒိန်ခဲအသစ်ကို သင်ရှာဖွေတွေ့ရှိပြီး ပျော်ပျော်ပါးပါး စား သုံးနိုင်ပါလိမ့်မည်ဟုကျွန်တော်မျှော်လင့်ပါသည်။

## Who Moved My Cheese

## မူရင်းစာအုပ်အပေါ် ထိပ်တန်းစီးပွားရေးပညာရှင်များ၏ အမြင်

"တစ်ခါတလေမှာ အနာဂတ်တံခါးကို လာ ခေါက်တတ်တဲ့ တိုရေရှားရေစာအုပ်မျိုး ထွက်လာ တတ်ပါတယ်။.. အဲဒီစာအုပ်ဟာ "ငါ့ဒိန်ခဲကို ဘယ်သူ ရွှေ့ထားသလဲ" စာအုပ်ပါပဲ။ ကျွန်တော့်ကို ကိုင်လှုပ်လိုက်တဲ့ စာအုပ်ပါ။ အဲဒီစီမံချက်ဟာ ရှင့်အတွေးအမြင်နဲ့လည်း ကိုက်ညီရလိမ့်မယ်။ ဦးနှောက်ရဲ့ဘယ်ဘက်ခြမ်း ချဉ်းကပ် ပုံနဲ့ ညာဘက်ခြမ်းချဉ်းကပ်နည်းနှစ်မျိုးရှိတယ်။

**David A Heenan**

**Board Manager**

**PETER F.DRUCKER DRADUATE**

**MANAGEMENT CENTER**

ကျွန်မ ဒိန်ခဲဇာတ်လမ်းကို ဖတ်ပြီးပြီးချင်း နေ့စဉ် ကြုံတွေ့နေရတဲ့ ဈေးကွက်သစ်တိုးချဲ့ရေးမှာ အပြောင်းအလဲ ပြဿနာတွေ ဖြေရှင်းဖို့ ဒိန်ခဲစာအုပ်တွေ အများကြီး ဝယ်ခိုင်းလိုက်တယ်။

**Joan Banks**

**Performance Effectiveness Specialist.**

**WHIR POOL CORPORATION**

"သားသမီးမြေးမြစ်တွေကို ညွှန်ခန်းမီးလင်းဖို့ ရှေ့ထိုင်ပြီး ကျွန်တော်က သည်ဇာတ်လမ်းဖတ်ပြနေတဲ့ပုံကို စိတ်ကူးနဲ့ပုံဖော်ကြည့်လိုက်တယ်။ စာရေးဆရာ ဘာပေးချင်တယ်ဆိုတာ သူတို့သိနေကြတယ်လို့ ကျွန်တော် ခံစားရတယ်။

**Lt.Col.Wayne Washer**

**AERONAUTICAL SCIENCE CENTER,**

**PATTERSON AFB**

“ဒိန်ခဲဆိုတဲ့ ရုပကအလင်္ကာဟာ ကျွန်တော်တို့ကို တကယ်ဖမ်းစားနိုင်ပါတယ်။ ဇာတ်ကောင်တွေ လှုပ်ရှားမှုနဲ့ သူတို့ရဲ့စကားလုံးတွေဟာ … သိပ်မိတယ်။ အပြောင်းအလဲကိစ္စမှာ အသုံးချဖို့ အားလုံးကွက်တိပဲ”

Albert J.Simone,

Prasident

ROCHESTER INSTITUTE OF TECHONOLOGY

“စပင်ဆာဂျွန်ဆင်ရဲ့ စာအုပ်ထဲမှာပါတဲ့ သူ့ရဲ့ ရှားပါးတဲ့အတွေး အမြင်ဟာ ဖတ်လို့မှတ်လို့ လွယ်တယ်။ လူပြိန်း နားလည်တယ်။ ခုလိုခေတ်ပြောင်းချိန်မှာ အပြောင်းအလဲနဲ့ အကောင်းဆုံးရင်ဆိုင်လိုသူတိုင်း ဖတ်ရမယ့်စာအုပ်ပဲ”

**Randy Harris**

**Former Vice-Chairman**

**MERRILL LYNCH INTERNATIONAL**

"Who moved my Cheese ရိုးရိုးရှင်းရှင်း ကလေးနဲ့ နားလည်လွယ်တဲ့ နိမိတ်ပုံတွေနဲ့ ကျွန်တော်တို့အတွက်ထားခဲ့တဲ့ ဂိုက်လမ်းညွှန်ပဲ။ အပြောင်းအလဲကို ကိုယ့်နည်းကိုယ့်ဟန်နဲ့ ရင်ဆိုင်ဖို့ အကောင်းဆုံးနည်းပဲ"

**Michael Morley**

**Senior Vice President**

**EASTMAN KODAK**

ကြွက်နဲ့လူသားအတူထားဖို့
အကောင်းဆုံးစီမံကိန်းတွေဆွဲ
လွဲတာကများ။

**ရောဘတ်ဘန်းစ်**

**(၁၇၈၉-၁၇၉၆)**

ဘဝဆိုတာ အတားအဆီးမရှိ ပကတိလွတ်လပ်တဲ့ခရီးမျိုးမဟုတ်ဘူး။ ကျွန်တော်တို့ လျှောက်သွားနေတဲ့ ဖြောင့်ဖြောင့်ဖြူးဖြူး၊ ဝရံတာ လမ်းကြောင်းမျိုး မဟုတ်ဘူး။

မျှားမြောင်လှတဲ့အချိုးအကွေ့တွေနဲ့
ဝင်္ကပါခရီးဖြစ်တယ်။
သည့်လို ခရောင်းလမ်းမှာမကြာခဏ
လမ်းပျောက်တတ်တယ်။

ပျောက်သောလမ်းမှာ စမ်းတဝါးဝါး ဖြစ်တတ်တယ်။

အမှောင်လမ်းထဲမှာ ထွက်ပေါက်မရှိ ပိတ်မိခံရတတ်တယ်။ ဒါပေမဲ့ ကျွန်တော်တို့မှာ ယုံကြည်မှုနဲ့ ခွဲသာ ရှိပါစေ။ ကျွန်တော်တို့အတွက် တံခါးရွက်တစ်ချပ် ပွင့်သွားလိမ့်မယ်။ အဲ ... ယုံကြည်မှုနဲ့ ခွဲမရှိလျှင်တော့ မပြောတတ် ဘူးပေါ့နော်။

သို့သော်ခွဲရှိလျှင် နောက်ဆုံးအောင်မြင်စမြဲပါ။

**အေဂျေ၊ ခရိုနင်**

# ကျွန်တော်တို့ကို ကိုယ်စားပြုသော ဇာတ်ကောင်များ

ဒီဇာတ်လမ်းထဲက ဇာတ်ကောင်လေးဦးမှာ စိတ်ကူးနဲ့ပုံဖော်ထားတဲ့ စနစ်ဖ်နဲ့ စကားရီး ကြွက်ကလေး နှစ်ကောင်။ ပြီးတော့ ဟပ်နဲ့ဟောဆိုတဲ့ လူကလေး နှစ်ယောက်ပါပါတယ်။

သူတို့တတွေဟာ ... ကျွန်တော်တို့အားလုံးကို ကိုယ်စားပြုထားတဲ့ ဇာတ်ရုပ်တွေပါ။ တချို့ကရိုးရိုး ရှင်းရှင်း။ တချို့က ရှုပ်ရှုပ်ထွေးထွေး ဆိုပါတော့။ ကျားမ မရွေး၊ လူမျိုးမရွေး၊ အသက်အရွယ်မရွေး အားလုံး အတူ တူလို့ထားလိုက်ကြပါစို့။

ရံဖန်ရံခါမှာ ကျွန်တော်တို့ စနစ်ဖ်နဲ့ တူချင် တူမယ်။ စနစ်ဖ်က အနံ့ခံကောင်းတဲ့ ကြွက်က လေးလေ။

ဒါမှမဟုတ် စကားရီးနဲ့ တူချင်တူမယ်။ သူက အပြေးမြန်တယ်။ ချက်ချင်း ”လှုပ်ရှားတတ်တယ်။

ဒါမှမဟုတ် ဟမ်နဲ့တူချင်တူမယ်။ ဟမ်က အပြောင်းအလဲကို လက်မခံချင်ဘူး။ လက်ရှိ အခြေအနေထက် ပိုဆိုးသွားမှာကြောက်တယ်။

ဒါမှမဟုတ် ဟောနဲ့ တူချင်တူလိမ့်မယ်။ သူက အပြောင်းအလဲနဲ့ကြုံရင် ချက်ချင်း အဲဒီအပြောင်းအလဲနဲ့ခွင်ကျအောင် ကြံဆောင်တတ်တယ်။ အပြောင်းအလဲဆိုတာ ပိုကောင်းတဲ့ အခြေအနေတစ်ခုကို ရောက်သွားအောင် ဖန်တီးနိုင်တယ်လို့ ... သူကမြင်တယ်။

ကျွန်တော်တို့အားလုံးဟာ ဘယ်သူ့နေရာကိုဝင်ဝင် သွားတူတာ တစ်ခုရှိတယ်။ ဝင်္ကပါထဲမှာ ထွက်ပေါက်ရှာဖို့ပဲ။ ပြီးတော့ အပြောင်းအလဲထဲမှာ အောင်မြင်မှုရအောင် ရှာဖို့ပဲ။

## မြို့တော်အထက်တန်းကျောင်း ထမင်းစားချိန် သူငယ်ချင်းတစ်သိုက်တွေ့ဆုံခြင်း

ခေါင်းလောင်းထိုးသံနှင့်အတူ အတန်းအသီးသီးမှ သူငယ်ချင်း ခုနစ်ယောက်တို့ ဆုံနေကျ စားသောက်ဆိုင်ဆီသို့ ပြေးသွားကြပြီး ထိုင်နေကျ စားပွဲတွင် ဝိုင်းထိုင် လိုက်ကြသည်။

ကျောင်းတွင် ရောမအပြောင်းအလဲကြီးတစ်ခု ဖြစ်လာတော့မည့် သတင်းသူတို့အားလုံး ကြားလာခဲ့ပြီး ဖြစ်သည်။ သည်အကြောင်း သူတို့အားလုံး ပြောချင်နေကြသည်။

ပထမဆုံးရောက်လာသူ နှစ်ယောက်က “ခရစ်” နှင့် “မီလာနီ”။ ခရစ်က စမေးသည်။ “နင် ဘယ်လိုထင်လဲ မီလာနီ” မီလာနီက ဘာမှပြန်မဖြေဘဲ မျက်လုံးရွဲကြီးတွေကို ကလယ်ကလယ် လုပ်ပြသည်။

ခဏနေတော့ ပီတာ၊ ကယ်ရီ၊ အင်နာ၊ ကားလ် နှင့် ဂျိုရှ်တို့ ရောက်လာကြသည်။ သူတို့ကလည်း ဒီကိစ္စကိုပဲ ဝိုင်းမေးကြသည်။ ကျောင်းအုပ်ဆရာမကြီး

က ကျောင်းအချိန်ဇယားပြောင်းမည့် အကြောင်းသည် နံနက်ပင် ကြေညာခဲ့သည်။ ကျောင်းသားဦးရေ မတန်တဆ များလာသည့်အတွက် တစ်နှစ်သင်တန်းများကို တစ်နှစ်ခွဲ တက်ကြရမည်တဲ့။

"ငါတော့ လုံးဝအဓိပ္ပာယ်မရှိဘူးထင်တာပဲ"

အင်နာက သူ့လွယ်အိတ်ကို ကြမ်းပြင်ပေါ်ပစ်ချပြီး စိတ်ပျက်လက်ပျက် စပြောသည်။

"ဒီအတိုင်း ဟန်ကျနေရက်သားနဲ့။ ဘာလို့ ဒီစနစ်ကို ပြောင်းရမှာလဲ"

"အလကား အရှုးထတာပါဟာ။ ဒီအတိုင်းဆို တို့ အတန်းပိုင် ဆရာတွေလည်း ပြောင်းကြရတော့မှာပေါ့"

ပီတာက အင်နာ့ကို ထောက်ခံဆွေးနွေးသည်။

ခရစ်က ပြန်မေးသည်။

"ပြောင်းတော့ ဘာဖြစ်လဲကွ"

ဂျိုရှီက စိတ်တိုနေသည့်လေသံဖြင့်

"ဘာဖြစ်ရမလဲကွ။ ထုံးစံအတိုင်း ဥပဒေတွေ နောက်ထပ် တိုးလာတော့မှာပေါ့။ သူ့ဘာသာသူ ဖြစ်နေရက်သားနဲ့"

ခရစ်ကထပ်ဖြည့်ပြောသည်။

"မင်းတို့ကလည်းကွာ။ အခြေအနေတွေပို ကောင်းလာချင်လာမှာပေါ့။ ကျောင်းနဲ့ ကျောင်းသားဦးရေ မဆန့်မပြဲဖြစ်နေတဲ့ကိစ္စ ပြေလည်ချင်ပြေလည်သွားမှာပေါ့"

သုံးနှစ်စာမေးပွဲ ဆက်တိုက်ကျထားသည့် ကားလ်က

"ဘာပဲဖြစ်ဖြစ် ငါတော့သည်အတိုင်းပဲ ကြိုက်တယ်။ ကျောင်းမှာ လူဘယ်လောက်ကျပ်ကျပ် ငါ ဂရုမစိုက်ဘူး"

ကယ်ရီကရယ်သည်။

"ဘယ်လောက်ကြီးကောင်းကောင်း .. တို့ ဆန့်ကျင်ရမှာပဲ"

ကားလ်ကမရယ်ဘဲအတည်ပေါက်ဆက် ပြောသည်။

"သည့်ကျောင်းမှာ ပိုကောင်းတယ်ဆိုတာ ဘယ်တုန်း ကမှမရှိခဲ့ဘူး"

မီလာနီက စားပွဲတစ်ဖက်မှ လှမ်းကြည့်ပြီး..

"နင်က ဘာလို့ အသေအချာပြောနိုင်တာလဲ ကားလ်။ အဲဒီ့အပြောင်းအလဲကို စမ်းမကြည့်ရသေး ဘူးလေ"

ဂျို့ရှီကဝင်ပြောသည်။

"အို ... ငါတော့ မစမ်းချင်တော့ပါဘူးဟာ။ ငါ့ ဘဝမှာ အပြောင်းအလဲတွေ ဖြစ်ခဲ့တာ မရေတွက်နိုင်တော့ ပါဘူး"

ဂျို့ရှ် ဘာဆိုလိုသည်ကို အားလုံးနားလည် လိုက်ကြ သည်။ သူ ကလေးဘဝကတည်းက အဖေအိမ်က ထွက်သွားသည်လေ။ သည်ဒဏ်ရာ သူ့နှလုံးသားမှာ စွဲထင်နေခဲ့သည်။ နောက်ထပ်ကြုံခဲ့သမျှ အပြောင်း အလဲ တွေကိုလည်း သူကျိတ်ပြီးနာကျည်းနေခဲ့သည်။

"ဘာပဲဖြစ်ဖြစ်လေ ငါတက်ရမယ့်ရာသီက နွေရာသီ ဆိုတော့ ကံကောင်းတယ်ဆိုရမှာပေါ့"

ကားလ်က သူ့ခုံတွင် ထိုင်ချလိုက်ရင်း ပြော လိုက်သည်။ ခရစ်ကရယ်ပြီးခေါင်းရမ်းသည်။

"ဒါရယ်စရာလားကွ"

ဂျိုရှ်က မကျေမနပ်ပြန်မေးသည်။ ခရစ်က ပြန်ရှင်းပြသည်။

"မင်းကို ငါ ရယ်တာမဟုတ်ပါဘူးကွာ။ ငါ့ဘာ သာငါ ရယ်တာပါ။ ငါ့အကြောင်း ငါစဉ်းစားမိပြီး ရယ်မိတာပါ။ မင်းတို့ပြောတာတွေ နားထောင်ပြီး ငါလည်း မင်းတို့ လိုပါပဲလားဆိုတာတွေးမိလို့ပါ"

"မဖြစ်နိုင်ပါဘူး။ မင်းက တို့နဲ့မှမတူတာ"

ဂျိုရှ်က ဝင်ထောက်သည်။ ကယ်ရီက ခရစ်ကို သံသယ မျက်လုံးများနှင့် ကြည့်ပြီး...

"သည်စနစ်သစ်ကို အကောင်းထင်နေတာ နင် တစ်ယောက်ပဲရှိတယ်။ .. ဆိုပါဦး၊ တို့မသိတာတွေနင် သိထားတာရှိလို့လား"

မီလာနီက သူငယ်ချင်းလုပ်သူကို လှမ်းကြည့်ပြီး

"ဟုတ်တယ် ခရစ်။ နင် ဘာဖြစ်နေတာလဲ။ နင့်ကြည့်ရတာ တစ်မျိုးပဲ။ နင်ဟာ တစ်ချိန်လုံး ပျော်ပျော် နေသေခဲ့သမားပဲ။ ဘာလဲ ရည်းစားရှိနေပြီလား"

"မဟုတ်ပါဘူးဟာ။ ငါ့ဦးလေးက ငါ့ကို ဒီဇာတ်လမ်းပြောပြပြီးကတည်းက ငါ့အတွက် အပြောင်းအလဲတွေ ဆက်တိုက်ဖြစ်လာနေတယ်။ သည်ဇာတ်လမ်းကို သူ့အလုပ်ထဲက ကြားလာတာတဲ့။ အဲဒီဇာတ်လမ်းကို ကြားပြီးကတည်းက ငါ့ကိုယ်ငါ ပြန်ရယ်နေမိတာ။ ခု ငါ အရင်လိုမဟုတ်တော့ဘူး။ ငါ့အမြင်တွေပြောင်းသွားပြီ"

"နင့်ဇာတ်လမ်းက ဘယ်လို ဇာတ်လမ်းမျိုးမို့လဲ"

မီလာနီက မေးသည်။

"ဝတ္ထုနာမည်က "ငါ့ဒိန်ခဲကို ဘယ်သူနေရာရွှေ့ထားသလဲ" တဲ့။

အားလုံးဝိုင်းရယ်ကြသည်။

ကယ်ရီက ... "နာမည်က ခပ်ဆန်းဆန်းဟ။ သဘောကျချင်စရာပဲ။ ဘာအကြောင်းလဲပြောပါဦး"

"ဇာတ်လမ်းက ဇာတ်ကောင်လေးဦးပါတယ်။ သူတို့တတွေဟာ ဝက်ပါထဲမှာ ဒိန်ခဲလိုက်ရှာကြတယ်။ သည်ဒိန်ခဲဆိုတာ နင်တို့အတွက် အရေးကြီးတဲ့ အရာတစ်ခုခုကို တင်စားထားတာ။ အသင်းအဖွဲ့ထဲဝင်ဖို့ကိစ္စ ဖြစ်ချင်ဖြစ်မယ်။ ချစ်သူရွေးဖို့ကိစ္စ ဖြစ်ချင်ဖြစ်မယ်။ တက္ကသိုလ် ဆက်တက်မလား၊ အလုပ်ထွက်လုပ်မလား ဆိုတဲ့ ကိစ္စဖြစ်ချင်ဖြစ်မယ်။ ဒါက လွတ်လပ်မှုပိုရမယ့် အခွင့် အရေးလေ။ အဲဒါမျိုးတွေဆိုပါတော့။ အဲ... ဝက်ပါကတော့ မင်းတို့ငါတို့ ရှာဖွေနေရာဝန်းကျင်ပေါ့။ တို့ ကျောင်းလိုမျိုးပေါ့"

"အင်း...ဒိန်ခဲနဲ့တော့ရလာပြီ"

ဂျိုရှ်က ဝင်နောက်တော့အားလုံးရယ်ကြသည်။

ကားလ်ကနာရီကိုမော့ကြည့်ပြီးမေးသည်။

"တို့ လေဆက်ပန်းဖို့ အချိန်ရပ့်မလား

"ငါတော့ နားထောင်ချင်တယ်ဟယ်"

မီလာနီကတောင်းပန်သည်။

"ကောင်းပြီ။ ငါ့ဦးလေးပြောတဲ့အတိုင်း ငါပြန်ပြောမယ်။ ခဏလေးနဲ့ ပြီးသွားမှာ။ ခုနေစပြောရင် နေ့လည်စာစားပြီးချိန်ဆိုပြီးသွားမယ်"

ဂျိုရှီက သားညှပ်မုန့်ကိုက်ရင်း..

"ဟုတ်ပြီ။ မင်းကပြော၊ တို့က စားမယ်။ ဒါ့ထက် ကောင်းတာ ဘာရှိမလဲ"

"ဝတ္ထု ဘယ်လောက် ကောင်းတယ်ဆိုတာ မင်းတို့အပေါ်မှာ တည်တယ်။ မင်းတို့ခံစားတတ်တဲ့ အပေါ်မှာတည်တယ်။ မင်းတို့ ဘယ်လောက် ယူနိုင်တယ်ဆိုတဲ့ အပေါ်မှာတည်တယ်"

ခရစ်ကဆက်ပြောသေးသည်။

“ဇာတ်လမ်းထဲကို မင်းတို့ရောက်သွားပြီဆိုရင် ကိုယ့်ကိုယ်ကို ပြန်မေးရမယ်။ ငါ့ဒိန်ခဲက ဘာလဲ။ ငါက ဘယ်သူလဲ”

ခရစ်က သည်လိုစပြီး ဒိန်ခဲဇာတ်လမ်းကို..

# ငါ့ဒိန်ခဲကို ဘယ်သူနေရာ ရွှေ့ထားသလဲ

## ဇာတ်လမ်း

# ဇာတ်လမ်း

ဟိုးရှေးရှေးတုန်းက လူမနီးသူမနီး တစ်နေရာက ဝက်ပါတစ်ခုထဲမှာ သတ္တဝါလေးဦးတို့ နေထိုင်ခဲ့ကြသတဲ့။ သူ တို့လေးဦးဟာ ဝက်ပါထဲမှာ ဒိန်ခဲတွေကို ရှာဖွေစားသောက်ရင်းပျော်ရွှင်စွာနေခဲ့ကြတယ်။

သူတို့အထဲမှာ နှစ်ဦးက ကြွက်ကလေးတွေ။ တစ်ကောင်ရဲ့ နာမည်က အနံ့ခံကောင်းလို့ "စနစ်ဖ်" လို့ တွင်ပြီး နောက်တစ်ကောင်ကိုတော့ အပြေးမြန်လို့ "စကား ရီး"လို့ခေါ်သတဲ့။

ကျန်နှစ်ဦးကတော့ လူသေးသေးကလေးတွေ၊ သူတို့အရွယ်အစား ကလည်း ကြွက်လောက်ပဲရှိတယ်။ ဒါပေမဲ့ သူတို့အပြုအမူက ဒီခေတ် လူတွေအတိုင်းပဲ။ သူတို့နှစ်ယောက်ရဲ့ နာမည်တွေကတော့ တစ်ယောက်က "ဟမ်"တဲ့။ နောက်တစ်ယောက်က "ဟော"တဲ့။ စကား ပြောရင် လိုရင်းကိုမရောက်ဘဲ ဝေ့လည်လည် လုပ်နေတတ်လို့ သည်လိုနာမည်တွေ တွင်တာပေါ့။

သူတို့ရဲ့အရွယ်အစားက သေးငယ်တော့ ... သူတို့ဘာတွေလုပ်နေတယ်ဆိုတာ သတိပြုမိဖို့မလွယ်ဘူးလေ။ ဒါပေမဲ့သူတို့ကို သေသေချာချာ အနီးကပ် စောင့်ကြည့်ရင် သူတို့လုပ်နေတာတွေဟာ အံ့ဩကုန်နိုင်ဖွယ်တွေဆိုတာ ရင်သပ်ရှုမော ပြောမဆုံးအောင် ဖြစ်ကြရတယ်တဲ့။

လူနှစ်ယောက်ရဲ့ ကြွက် နှစ်ကောင်ဟာ နေ့တိုင်း နေ့တိုင်း သူတို့ အကြိုက်ဆုံး အထူးစပယ်ရှယ် ဒိန်ခဲကို ဝင်္ကပါထဲမှာ ရှာဖွေစားသောက်ခြင်းနဲ့ အချိန်ဖြုန်း ကြတယ်တဲ့လေ။

စနစ်ဖ်နဲ့ စကားရီးဟာ ကြွက်ကလေးတွေ ဖြစ်တဲ့အတွက် သူတို့ ဦးနှောက်မှာ ဖြတ်ဖို့၊ ကိုက်ဖို့လောက်သာ အသိဉာဏ်ရှိတယ်။ ဒါပေမဲ့ အနံ့ခံတဲ့နေရာမှာတော့ အဟုတ်တော်တယ်။ သူတို့ကြိုက်တဲ့ ဒိန်ခဲ အစအနတွေကိုကြွက်တို့ သဘာဝ ရှာဖွေတတ်ကြတယ်။

ဟမ်နဲ့ဟောဆိုတဲ့ လူကလေး နှစ်ယောက်ကတော့ ဦးနှောက်ကိုသုံးတယ်။ သူတို့ကြိုက်တဲ့ အထူး

စပါယ်ရှယ် ဒိန်ခဲကို ယုံကြည်မှုမျိုးစုံနဲ့ .. ပြည့်လျှံနေတဲ့ သူတို့ ဦးနှောက်ကိုသုံးပြီးရှာတယ်။ အဲဒီဒိန်ခဲဟာ သူတို့ကို ပျော်ရွှင်စေမယ်။ အောင်မြင်မှုဖြစ်စေမယ်လို့ သူတို့ယုံ ကြည်ကြတယ်။

အဲဒီလို ကြွက်နှစ်ကောင်နဲ့ လူကလေး နှစ်ယောက်တို့ကြားမှာ ခြားနားချက်တွေရှိပေမယ့် တူတာတွေလည်း အများကြီးရှိတယ်ဆိုပဲ။ နံနက်တိုင်း သူတို့ လေးဦးစလုံး လမ်းလျှောက်ဝတ်စုံတွေ ဝတ်ကြတယ်။ အပြေးဖိနပ်တွေ စီးကြတယ်။ သူတို့ နေအိမ်ကလေးတွေထဲက ကိုယ်စီထွက်ကြပြီး သူတို့အကြိုက် ဒိန်ခဲရှာဖို့ ဝင်္ကပါ ထဲကိုပြေးဝင်ကြသတဲ့။

သူတို့နေတဲ့ ဝင်္ကပါက ဝရံတာတွေ အသွယ်သွယ်နဲ့ ရှုပ်ထွေးနေတဲ့ လမ်းတွေ၊ ခန်းမဆောင်တွေ အများကြီးပါတဲ့ ဝင်္ကပါမျိုးတဲ့။ အချို့ခန်းမဆောင်တွေထဲမှာ သိုလှောင်ထားတဲ့ အရသာအရှိဆုံး ဒိန်ခဲတွေ အများကြီးရှိတယ်။ ဒါပေမဲ့ မှောင်မည်းနေတဲ့ အချိုးအကွေ့တွေ၊ ဘာမှ မမြင်နိုင်တဲ့ လမ်းကြားတွေ

လည်းအများကြီးပဲ။ တချို့လမ်း တွေက ထိပ်ပိတ်တွေ။ မျက်စိလည်ပြီး ပိတ်မိဖို့များတဲ့ ဝက်ပါမျိုးပေါ့။

ဒါပေမဲ့ လမ်းသိတဲ့လူတွေအဖို့ ဝက်ပါရဲ့ လျှို့ဝှက်ချက်ကို ဖော်နိုင်တဲ့လူတွေအဖို့တော့ ပျော်စရာ အဖုံဖုံ သုခဘုံပေါ့။

စနစ်ဖ်နဲ့ စကားရီးက ရိုးရိုးရှင်းရှင်းကလေးနဲ့ သိပ်ထောင့်မစေ့တဲ့ နည်းကိုသုံးပြီး ဒိန်ခဲရှာတယ်။ မှား လိုက်ပြင်လိုက် စမ်းသပ်နည်းပေါ့။ လမ်းတစ်လမ်းထဲ ပြေးဝင်သွားပြီး ဘာမှမတွေ့ရင် ပြန်လှည့်ပေါ့။ စနစ်ဖ်က ဒိန်ခဲရှိနိုင်မယ်ထင်တဲ့ နေရာကို မှန်းပြီး သူ့နှာခေါင်းနဲ့ အနံ့ခံတယ်။ သူ့နှာခေါင်းဦးတည်ရာကို စကားရီးက တန်းပြေးတယ်။ မင်းတို့ထင်တဲ့ အတိုင်း ပေါ့ကွာ။ . မှားတဲ့အခါလည်းမှားပေမပေါ့။ ဟိုဝင်ဆောင့် ဒီဝင်တိုက်ပေါ့။

တစ်ဖက်မှာ လူသားနှစ်ယောက်ဖြစ်တဲ့ ဟမ်နဲ့ ဟောကလည်း သူတို့နည်းသူတို့ဟန်နဲ့ ... သူတို့အရည် အချင်းကို သူတို့ ယုံကြည်စွာနဲ့။ သို့သော်လည်းပေါ့လေ၊

လှူသားပီပီ စိတ်လှုပ်ရှားစွာ ဦးခေါင်းရှုပ်ထွေးစွာနဲ့ ဒိန်ခဲနောက်ကိုလိုက်နေကြတာပါပဲ။

ဒါပေမဲ့ တစ်နေ့မှာ သူတို့နည်း သူတို့ဟန်နဲ့ သူတို့လိုချင်တာကို ရကြတာကတော့ အသေအချာပဲ။ သူတို့ကိုယ်စီရဲ့အကြိုက် ဒိန်ခဲတွေကို စကြံ့လမ်းတစ်ခုရဲ့အဆုံးတစ်နေရာမှာ သူတို့သွားတွေ့ ကြတယ်။ အဲဒီနေရာကို သူတို့ "စီ" လို့ နာမည်ပေးလိုက်ကြတယ်။ အဲဒီနောက်ပိုင်းမှာ သူတို့လေးဦးဟာ အဲဒီ "စီ" လို့ နာမည်ပေးထားတဲ့ နေရာကို နံနက်တိုင်းသွားကြတယ်။ နံနက်ခင်းဝတ်စုံအပြည့်နဲ့ပေါ့။ သိပ်မကြာပါဘူး၊ သူတို့တတွေဟာ ကိုယ်ပိုင်နည်းနာနိဿယ တွေကို အသုံးချတတ်လာကြတယ်။

စနစ်ဖ်နဲ့စကားရီးက နေ့တိုင်း စောစောထပြီး ဝက်ပါထဲ ပြေးသွားလေ့ရှိတယ်။ သွားနေကျလမ်းကြောင်းအတိုင်း သူတို့ သွားကြတာပါ။

လိုရာခရီးကို ရောက်ပြီဆိုတာနဲ့ ကြွက်နှစ်ကောင်ဟာ ဖိနပ်တွေချွတ်ပြီး .. လည်ပင်းမှာဆွဲထား

လိုက်ကြတယ်။ ဒါမှ လိုအပ်ရင် ချက်ချင်းပြန်စီးလို့ရမှာ ကိုး ပြီးတာနဲ့ဒိန်ခဲကို တပျော်တပါး လွေးကြတော့ တာပဲ။ အစပိုင်းမှာတော့ ဟမ်နဲ့ ဟောပါ စောစောထပြီး နတ်သုဒ္ဓါလို အရသာရှိလှတဲ့ ပြီးတော့ သူ့ဗိုက်ကို ဖြည့်ပေးဖို့ ဒိန်ခဲရှိရာကို ပြေးကြတာပါပဲ။ ဒါပေမဲ့ သိပ်မကြာပါဘူး။ လူကလေးတွေရဲ့ လုပ်နည်းလုပ်ဟန် ပြောင်းလာတယ်။

နေ့စဉ် ဟမ်နဲ့ဟောဟာ အိပ်ရာထ နောက်ကျ လာတယ်။ အဝတ်အစားလဲတော့လည်း အီလေးဆွဲပြီး ပျင်းရိပျင်းတွဲဖြစ်လာတယ်။ ပြီးတော့ ဒိန်ခဲရှိရာ “စီ” နေရာကို ခပ်ဖြည်းဖြည်း လျှောက်သွားတယ်။ မပြေး တော့ဘူး။ “စီ” နေရာကို သူတို့သိနေကြပြီလေ။ စီလမ်း ကြောင်းကို မျက်စိမှိတ်ပြီးတောင် သွားတတ်နေပြီလေ။

ဒိန်ခဲတွေ ဘယ်ကဘယ်လို ရောက်လာတယ်၊ ဘယ်သူလာထားတယ်ဆိုတာ သူတို့မသိဘူး။ ဒီနေရာ မှာ ဒိန်ခဲရှိနေတယ်ဆိုတာပဲ သူတို့ ကျိန်းသေတွက်ထား တယ်။ ဒိန်ခဲတွေ ဘယ်ထွက်ပြေးမလဲပေါ့။

ဒိန်ခဲရှိတဲ့နေရာကို ရောက်ပြီဆိုတာနဲ့ သူတို့နှစ်ယောက်ဟာ ကိုယ့်အိမ် ကိုယ့်ရာလို သဘောထားပြီး အေးအေးလူလူ နံနက်တိုင်း အနားယူကြတယ်။ အဲ့က စားဝတ်စုံတွေကို ချွတ်ပြီးချိတ်၊ အပြေးဖိနပ်တွေ ချွတ်ပြီး ခြေညှပ်ဖိနပ်လဲစီး၊ သည်နေရာဟာ သူတို့အတွက် နှလုံး မွေ့လျော်ပျော်ဖွယ်ရာ အရပ်ပေပဲပေါ့။

"တကယ် နိပ်တဲ့နေရာပဲဟေ့။ ဒီမှာရှိနေတဲ့ ဒိန်ခဲတွေကလည်း တို့တစ်သက် စားလို့ကုန်မှာ မဟုတ်ဘူး" လို့ ဟမ်က ပြောတတ်တယ်။ လူကလေး နှစ်ယောက်ဟာ အရမ်း ပျော်နေကြတာပေါ့။ တစ်သက်ပူစရာ မလိုတော့ဘူးပေါ့။ အောင်မြင်ပြီပေါ့။

"စီ" ဆိုတဲ့နေရာမှာရှိတဲ့ ဒိန်ခဲဟာ သူတို့ ကုသိုလ်နဲ့ သူတို့ ဖြစ်လာတဲ့ သူတို့ရဲ့ ကိုယ်ပိုင်ဒိန်ခဲ တွေပဲလို့ မကြာမတင်အတွင်းမှာ သူတို့ သတ်မှတ်လိုက်ကြတယ်။ နည်းနည်းနောနော ဒိန်ခဲတွေမှ မဟုတ်တာ။ ဒီတော့ "စီ" နဲ့အနီးဆုံးနေရာကို သူတို့ ပြောင်းလာ

ကြတယ်။ ပြီးတော့ အဲဒီနေရာမှာပဲ သူတို့ရဲ့ လူမှုဘဝကို တည်ဆောက်ခဲ့ ကြတယ်။

ပိုပြီး အိမ်နဲ့ရာနဲ့တူအောင် ဟမ်နဲ့ ဟောဟာ နံရံတွေမှာ သူတို့ရဲ့အတွေးအမြင်တွေ၊ အဆိုအမိန့်တွေကို ရေးခြယ်ကြတယ်။ ရေးပြီး စာတန်းတွေကို ဒိန်ခဲပုံကြီးတွေနဲ့ တောင်ခြယ်သကြသေးသတဲ့။

ပထမဆုံး သူတို့ရေးထားတာက ဟောဒီလိုတဲ့။

ဒိန်ခဲကို ပိုင်ဆိုင်ရခြင်းသည်

အဟောသုခံ ချမ်းသာပေစွ

ဟမ်နဲ့ ဟောဟာ တစ်ခါတလေ မိတ်ဆွေ အပေါင်းအသင်းတွေကိုခေါ်ပြီး ဒိန်ခဲတွေ အပုံလိုက် လှောင်ထားတဲ့ သူတို့ “စီ” လို့ခေါ်တဲ့နေရာကို ပြကြသတဲ့။ ဒိန်ခဲပုံကြီးကို လက်ညှိုးထိုးပြပြီးတော့ ခပ်ကြွားကြွား ပြောတတ်သေးတယ်။

“ကြည့်စမ်း၊ ဘယ်လောက် ကျက်သရေရှိတဲ့ ဒိန်ခဲတွေ”

တစ်ခါတလေလည်း အဲဒီလို အပေါင်းအသင်းတွေကို ဒိန်ခဲတွေကျွေးပြီး ဧည့်ခံတယ်။ ဒါပေမဲ့ အမြဲတမ်းတော့ မဟုတ်ဘူး။ ဘာမှ မကျွေးဘဲ ပြန်လွှတ်လိုက်တဲ့အခါလည်းရှိတယ်။

ဟမ်က....

“ငါတို့ဟာ ဟောဒီဒိန်ခဲတွေကို .. ထိုက်ထိုက်တန်တန်ရထားတာ၊ ဒီနေရာကိုတွေ့ဖို့ ငါတို့နှစ်ယောက် အကြာကြီးကြိုးစားခဲ့ရတယ်”

လို့ပြောရင်း လတ်လတ်ဆတ်ဆတ် ဒိန်ခဲတစ်တုံးယူပြီး ရွေးလိုက်တယ်။

ထုံးစံအတိုင်း အဝအပြဲစားပြီး သူ အိပ်ပျော်သွားရော။

ညတိုင်းညတိုင်း လူကလေး နှစ်ယောက်ဟာ ဒိန်ခဲတွေ တစ်ပွဲ့ တစ်ပိုက်ကြီးသယ်ပြီး အိမ်ကို ပေါက်ဆတ်ပေါက်ဆတ် ဟိုယိုင်သည်ယိုင်နဲ့ ပြန်လာတတ်ကြတယ်။

နောက်တစ်နေ့နံနက် မိုးလင်းတာနဲ့ ဒိန်ခဲဆီကိုစားဖို့၊ သယ်ဖို့ စိတ်ချလက်ချ ပြန်ရောက်လာကြပြန်ရော။

သည်လိုနဲ့ အချိန်တွေ တဖြည်းဖြည်း ကုန်လာခဲ့တယ်။ သည်ဒိန်ခဲတွေ တစ်သက်စားလို့ကုန်တော့မှာမဟုတ်ဘူးဆိုတဲ့ ... ယုံကြည်စိတ်ချမှုကနေ ကြာတော့တစ်စတစ်စနဲ့ သူတို့ ဘဝင်မြင့်လာကြတယ်။

သိပ်မကြာပါဘူး။ သူတို့နှစ်ယောက်ဟာ ဘဝကို အရမ်းကျေနပ်နေတော့ ပတ်ဝန်းကျင်မှာ ဘာဖြစ်နေ တယ်ဆိုတာ သူတို့ သတိမမူမိကြတော့ဘူး။

စနစ်ဖ်နဲ့ စကားရီးကတော့ နိစ္စဓူဝ လှုပ်ရှားမှုအတိုင်း ဆက်ပြီး စခန်းသွားနေကြတယ်။ နံနက်တိုင်း သူတို့ အစောကြီးရောက်တယ်။ ဒိန်ခဲတုံးတွေကို နမ်းလိုက်၊ ကုတ်ခြစ်ကြည့်လိုက်၊ ပတ်ပတ်လည်ကို ပြေးလွှားကြည့်လိုက်နဲ့ အလုပ်ရှုပ် နေတတ်ကြတယ်။ မနေ့ကနဲ့ဒီနေ့ ဘာအပြောင်းအလဲ ရှိသလဲဆိုတာ စစ်ဆေးနေကြတာလေ။

ပြီးမှ သေသေချာချာထိုင်ပြီး ဒိန်ခဲကို ကိုက်ဖွဲ့ စားသောက်တော့တာပဲ။

တစ်နေ့နံနက် သူတို့ရဲ့ဒိန်ခဲရိပ်သာ “စီ”နေရာကို သူတို့ရောက်တော့၊ ဟိုက် .... ဒိန်ခဲတွေ တစ်စမှ မရှိတော့ဘူး။

ဒီ့အတွက် သူတို့ လုံးဝမအံ့သြဘူး။ ဘာလို့လဲ ဆိုတော့ စနစ်ဖ်ရော စကားရီးပါ သူတို့စားသောက် နေတဲ့ ဒိန်ခဲတွေ နည်းနည်းလာတယ်ဆိုတာ သူတို့ သိတာကိုး။ ဒီအဖြစ်နဲ့ တစ်နေ့ကြုံရမယ်ဆိုတာ သူတို့ သိထားပြီးသား။ ပြီးတော့ သူတို့ရဲ့ ပင်ကိုယ်ဗီဇ အသိ

အရ ဘာဆက်လုပ်ရ မယ်ဆိုတာလည်း သူတို့စဉ်းစား ပြီးသား။

သူတို့ တစ်ယောက်မျက်နှာ တစ်ယောက် ကြည့်လိုက်ကြတယ်။ ပြီးတော့ လည်ပင်းမှာဆွဲထားတဲ့ ဖိနပ်တွေကို အသာပြန်ယူပြီးတော့ အေးအေးဆေးဆေး ပဲပြန်စီးတယ်၊ ကြိုးချည်တယ်။

ကြွက်ဆိုတဲ့ကောင်မျိုးက ရှည်ရှည်ဝေးဝေး စစ်ဆေးတွေးတော မနေဘူး။ သူတို့ခေါင်းထဲမှာ ရှုပ်ရှုပ် ထွေးထွေး ယုံကြည်မှုတွေလည်းမရှိဘူး။

သူတို့အတွက် ပြဿနာကော၊ အဲဒီပြဿနာရဲ့ အဖြေပါ ရိုးရိုးကလေးပဲ။ "စီ"ဆိုတဲ့ ဒိန်ခဲရိပ်သာရဲ့ အခြေအနေဟာ လုံးဝပြောင်းလဲသွားပြီ။ ဒါကြောင့် အဲဒီ အခြေအနေနဲ့ လိုက်ပြောင်းဖို့ သူတို့ဆုံးဖြတ် လိုက်ကြ တယ်။

နှစ်ယောက်သား ဝင်္ကပါလမ်းတွေဆီကို မျှော် ကြည့်လိုက်ကြတယ်။ စနစ်ဖ်က သူ့နှာခေါင်းကို မော့ပြီး

အနံ့ခံတယ်။ ပြီးတော့ စကားရီးကို ခေါင်းညိတ်ပြလိုက်တယ်။ စကားရီးဟာ ချက်ချင်းပြေးချသွားတော့တာပဲ။ စနစ်ဖ်ကလည်း ကြိုးစားပြီး သူ့နောက်ကို အမီပြေးလိုက်တယ်။

ဒိန်ခဲရှာပုံတော်အသစ်ကို သူတို့ ချက်ချင်းပြန်စနိုင်ခဲ့တယ်ဆိုပါတော့။

အဲဒီ့နေ့မှာပဲ အဲဒီ့နေရာကို ဟမ်နဲ့ ဟောဟာနည်းနည်းနောက်ကျပြီး ရောက်လာတယ်။ "စီ" ဒိန်ခဲရိပ်သာမှာ နေ့စဉ် မသိမသာအပြောင်း အလဲဖြစ်လာတာကို သူတို့ လုံးဝသတိမထားမိဘူး။ ဒီတော့ ဒီနေရာမှာ ဒီဒိန်ခဲတွေ အမြဲရှိနေရမယ်လို့ ကြိုပြီး ကျိန်းသေတွက် ထားတာပေါ့။

ဒီတော့ တကယ့်အဖြစ်မှန်နဲ့ရင်ဆိုင်ဖို့ သူတို့အသင့်မရှိကြဘူးလေ။

"ဘာ....ဒိန်ခဲတွေမရှိတော့ဘူးဟုတ်လား"

ဟမ်ကဒေါသူပုန် ထပါလေရော။

“ဒိန်ခဲတွေ မရှိတော့ဘူး။ ဒိန်ခဲတွေ မရှိတော့ဘူး” ဆိုပြီး အသားကုန်အော်နေတော့တာပဲ။ သူ တအားကုန်အော်ရင် ဒိန်ခဲတွေ ပြန်ရောက်လာမယ့် အတိုင်းပဲ။

“ငါ့ဒိန်ခဲကို ဘယ်သူနေရာရွှေ့လိုက်တာလဲကွ” သူက ခုနစ်သံချီတက်ပြီး အော်နေတုန်းပဲ။ နောက်ဆုံး မောတော့မှ ခါးထောက်လိုက်တယ်။ သူ့မျက်နှာ တစ်ခုလုံးဒေါသကြောင့်နီရဲနေတယ်။

နောက်တစ်ခါမကျေမနပ်နဲ့ထပ်အော်ပြန်ရော။

“မတရားဘူး၊ လုံးဝမတရားဘူး”

ဟောကတော့ အဖြစ်အပျက်ကို မယုံကြည်နိုင်စွာနဲ့ ခေါင်းယမ်းနေတယ်။ သူလည်းပဲ ဒိန်ခဲဟာ ဒိန်ခဲနေရာမှာ ရှိကိုရှိနေရမယ်လို့ တွက်ထားတဲ့လူလေ။ အကြာကြီး တွေရပ်နေပြီး ကျောက်ရုပ်တစ်ရုပ်လို သူငြိမ်နေတယ်။ အမှန်ကတော့ လန့်ပြီး သူ ကြက်သေသေနေတာ။ ဒီအဖြစ်မျိုးကို သူမျှော်လင့်မထားဘူးလေ။

ဟမ်က ဆက်ပြီး အော်ဟစ် ကြိမ်းမောင်းနေ တုန်းပဲ။ အဲဒါတွေကိုလည်း ဟောက မကြားချင်တော့ ဘူး။ လက်တွေ့ရင်ဆိုင်နေရတဲ့ တကယ့်အဖြစ်နဲ့ သူ ထိပ်တိုက်မတိုးချင်ဘူးလေ။ ဒီတော့အားလုံးကို မသိ ကျိုးကျွံ လုပ်နေလိုက်တော့တယ်။

လူကလေးနှစ်ယောက်ရဲ့ အပြုအမူဟာ သိပ် ဟန်မကျလှဘူး။ ဘာမှလည်း .. အကျိုးဖြစ်ထွန်းလာမှ မဟုတ်ဘူး။ ဒါပေမဲ့ ဘာကြောင့် ဒီလိုဖြစ်ရတယ်ဆိုတာ နားလည်နိုင်ပါတယ်။

ဒီလိုဒိန်ခဲတွေ အစုလိုက်အပုံလိုက် တွေ့ဖို့ဆို တာသိပ်လွယ်တဲ့ကိစ္စမဟုတ်ဘူး။ လူကလေး နှစ် ယောက်အတွက် နေ့စဉ်စားနေဖို့ထက် ဒီလိုတွေ့ဖို့က ပိုအရေးကြီးနေတယ်။

သူတို့နှစ်ယောက် ဒိန်ခဲတွေ့တော့ သုခမြို့ တော်ကိုရောက်ပြီလို့ သူတို့ထင်ခဲ့တယ်။ ဒိန်ခဲရဲ့ သဘောသဘာဝကို သူတို့ အရသာခံတဲ့အပေါ် မူတည် ပြီး အဓိပ္ပာယ်ဖွင့်ဆိုကြတယ်။

အချို့အတွက် ဒိန်ခဲတွေ့တာဟာ ရုပ်ပိုင်းဆိုင်ရာ ရတနာသိုက်တွေ့တာပဲ။ အချို့ကျတော့ ကျန်းမာရေး အတွက် အာဟာရပေါ့။ ဒါမှ မဟုတ်လည်း ချမ်းသာသုခကို စိတ်နဲ့ခံစားမှု ဖွံ့ဖြိုးတိုးတက်လာခြင်းပေါ့။

ဟောအတွက် ဒိန်ခဲဟာ ဘဝရဲ့လုံခြုံမှုပဲ။ တစ်နေ့နေ့မှာ ချစ်စရာ၊ ချမ်းမြေ့ရိပ်မြုံ အိမ်ထောင်လေး တစ်ခု တည်ဆောက်ပြီး ငြိမ်းအေးတိတ်ဆိတ်တဲ့ တိုက်ပုကလေး တစ်လုံးမှာ နေမယ်။ ချက်ဒါလမ်းလို ဆိတ်ငြိမ် ရပ်ကွက် တစ်ခုခုမှာပေါ့။

ဟမ်ကတော့ ချင်မင်ဘတ်တောင်ကုန်းမှာ ရောမအိမ်ကြီးတစ်ဆောင် ဝယ်ပြီးနေမယ်။ အဲဒီအိမ်ကြီးထဲမှာ ဒိန်ခဲတွေ အိမ်နဲ့အပြည့်ရှိနေရမယ်။

ဒိန်ခဲဟာ ဟမ်နဲ့ဟောအတွက် ဤရွေ့ဤမျှ အရေးပါနေတာမို့ ဘာလုပ်ရမယ်ဆိုတာ မဆုံးဖြတ်နိုင်ဘဲ အချိန်တွေအများကြီးကုန်သွားတယ်။

ဒိန်ခဲဆိုလို့ အစအနတောင် မကျန်တော့တဲ့ "စီ" ဒိန်ခဲရိပ်သာကို ထပ်တလဲလဲကြည့်နေဖို့သာ စိတ်ကူးရကြတယ်။ ဒိန်ခဲတွေပျောက်သွားတာ အိပ်မက်လေလား။ တကယ်လားပေါ့။

စနစ်ဖ်နဲ့ စကားရီးတို့က သူတို့အလုပ်ကို သူတို့အမြန်ဆုံးနှုန်းနဲ့ ဆက်လုပ်နေကြတယ်။ ဟမ်နဲ့ ဟောက တော့နာမည်နဲ့လိုက်အောင် သည်ယောင်ယောင်၊ ဟိုယောင်ယောင် တောင်စဉ်ရေမရစကားတွေ ပြောပြီး အချိန်ကုန်နေကြတုန်းပဲ။

"မတရားဘူး... မတရားဘူး"

ဆိုပြီး အော်ဟစ်ရန်တွေ့နေတုန်းပဲ။ ဟောက စိတ်ဓာတ်ကျစပြုလာတယ်။ မနက်ဖြန်အထိ ဒိန်ခဲတွေ ပြန်ရောက်မလာရင် ဘယ့်နှယ့်လုပ်မလဲ။ သည်လိုတွေးပြီး ရှေ့ဆက်လုပ်ဖို့ လုပ်ငန်းစဉ်တွေ ချကြည့်တယ်။

လူကလေးနှစ်ယောက်ဟာ ခုထက်ထိ မယုံနိုင်လောက်အောင် ဖြစ်နေတုန်းပဲ။ ဘယ်လိုကြောင့် ဒီလိုဖြစ် ရတာလဲ။ ဘာကြောင့်သူတို့ကို တစ်စုံတစ်

ယောက်က သတိမပေးတာလဲ။ ဒါ လုံးဝသဘာဝ မကျဘူး။ ဖြစ်သင့် ဖြစ်ထိုက်တဲ့ ကိစ္စမျိုးမဟုတ်ဘူး။

အဲဒီညမှာ သူတို့နှစ်ယောက်စလုံး စိတ်ဓာတ်အကျကြီးကျပြီး အိမ်ပြန်လာခဲ့ကြတယ်။ ဗိုက်ကလည်း ရမ်းဆာနေပြီ။ မပြန်ခင်ဟောက နံရံမှာရေးခဲ့သေးတယ်။

ရွှေဦးကော

သင့်အတွက် ဒိန်ခဲက အရေးကြီးလေ၊

ဒိန်ခဲကို လက်မလွှတ်ဘဲ ကိုင်ထားချင်လေပဲ

နောက်တစ်နေ့မှာလည်း ဟမ်နဲ့ဟောဟာ သူတို့အိမ်မှ “စီ” ဒိန်ခဲ ရိပ်သာဆီကို လာခဲ့ကြပြန်တယ်။ ဒိန်ခဲတွေ ပြန်ရောက်နေမလားဆိုတဲ့ မျှော်လင့်ချက် သူတို့မှာ ရှိနေဆဲလေ။

အခြေအနေက မနေ့ကအတိုင်းပါပဲ။ ဘာမှမပြောင်းလဲပါဘူး။ ဒိန်ခဲလည်း ပြန်ရောက်မလာပါဘူး။ လူကလေးနှစ်ယောက် ဘာဆက်လုပ်ရမှန်း မသိတော့ဘူး။ ဟမ်နဲ့ ဟောဟာ ကျောက်တိုင်နှစ်တိုင်လို မလှုပ်မယှက်ငြိမ်သက်ရပ်ငေးနေကြတယ်။

ဟောက မျက်စိကို တအားပိတ်၊ နားကိုလည်း လက်နှစ်ဖက်နဲ့ အတင်းဖိထားလိုက်တယ်။ ဘာမှလည်း မမြင်ချင်၊ ဘာမှလည်းမကြားချင်တော့ဘူး။ ဒိန်ခဲတွေ တဖြည်းဖြည်း နည်းနည်းလာတဲ့ အကြောင်းလည်း ပြန်မတွေးချင်တော့ဘူး။ ဒိန်ခဲပုံကြီး ရုတ်တရက် ပျောက်သွားတာလို့ပဲ ယုံကြည်ထားလိုက်တော့တယ်။

ဟမ်ကတော့ အဖြစ်အပျက်ကို အပြန်ပြန်အလှန်လှန် စဉ်းစားတယ်။ သူ့ခေါင်းထဲမှာ ယုံကြည်မှု အစွဲအလမ်းတွေနဲ့ ရှုပ်ထွေးပြည့်ညပ်နေပုံရတယ်။

"ဘာလို့ သူတို့ငါ့ကို ဒီလိုလုပ်ကြရတာလဲ"

"ဒီမှာတကယ်ဖြစ်နေတာက ဘာတွေလဲ"

အဲဒီ့လို မကျေနိုင် မချမ်းနိုင် ဖြစ်နေတယ်။ နောက်ဆုံးမှာ ဟောက မျက်စိဖွင့်ပြီး ပတ်ဝန်းကျင်ကို ကြည့်တယ်။

"ဟေး ဒါထက် နေပါဦး၊ စနစ်ဖ်နဲ့စကားရီးကော၊ တို့မသိတာတွေကို သူတို့များ သိနေမလား"

"အဓိပ္ပာယ်မရှိတာကွာ။ သူတို့ ဘာသိမှာလဲ"

ဟမ်က ရယ်သွမ်းသွေးပြီး ပြောတယ်။ . သူ စကားဆက်သေးတယ်။

"သူတို့ဟာ ဘာမှမဟုတ်တဲ့ ကြွက်ကလေးတွေပဲကွ။ အဖြစ်အပျက် တစ်ခုကို သူတို့ ရိုးရိုးပဲ တွေးတတ်မှာပေါ့။ တို့က လူတွေလေ။ တို့က အသိဉာဏ်

မြင့်တာပဲ။ တို့က တွေးခေါ် မြော်မြင်တတ်ရမှာပေါ့။ ဒီအဖြစ်မျိုးဟာ တို့ကို လာမဖြစ်ရဘူး။ ဖြစ်ရင်လည်း တို့အတွက် အကျိုးအမြတ် ရှိရမယ်”

“ဘယ်လိုအကျိုးအမြတ်လဲ”

ဟောကပြန်မေးလိုက်တယ်။

“တို့မှာ ရပိုင်ခွင့်ရှိလို့ပေါ့ကွ”

ဟမ်ကဟိန်းဟောက်ပြီးပြောတယ်။

“ဘာရပိုင်ခွင့်လဲ”

ဟောက နားမရှင်းလို့ ထပ်မေးပြန်ရော။

“ငါတို့ဒိန်ခဲဟာ ငါတို့ရပိုင်ခွင့်ပေါ့ကွ”

“ဘာဖြစ်လို့လဲ”

ဟောက ဆက်တိုက်မေးနေတယ်။

“ဘာဖြစ်လို့ရမလဲကွ။ ဒီပြဿနာကို တို့စတာ

မဟုတ်လို့ပေါ့။ တစ်ယောက်က ဒီလိုဖြစ်အောင် လုပ်တာ။ ဒါကြောင့် ငါတို့တစ်စုံတစ်ရာ နစ်နာကြေး ရပိုင်ခွင့်ရှိရမယ်”

လို့ဟမ်က ရှင်းပြတယ်။

“ငါတို့ဆန်းစစ်တာ၊ ဝေဖန်တာ၊ လေကန်တာ ရပ်လိုက်ရင်ကောင်းမယ်။ သိပ်များနေပြီ။ ဒိန်ခဲအသစ် ထွက်ရှာကြစို့”လို့ ဟောကအကြံပေးတော့ … ဟမ်က လက်မခံဘူး။

“ဟာ .. မဟုတ်တာ။ ငါ ဒီကိစ္စကို ရေဆုံး ရေဖျား အထိလိုက်မယ်”

လို့ငြင်းချက်ထုတ်တယ်။

ဟမ်နဲ့ဟော ဘာလုပ်ရမှန်းမသိဘဲ အငြင်းအခုံ ဖြစ်နေကြချိန်မှာ စနစ်ဖ်နဲ့ စကားရီးတို့ နှစ်ကောင်က တော်တော်ခရီးပေါက်နေပြီ။ ဝက်ပါ လမ်းမှန်သမျှ၊ စကြံမှန်သမျှ အထက်အောက်မကျန် ဒိန်ခဲရှာဖွေရေး လုပ်ပြီးပြီ။

သူတို့ခေါင်းထဲမှာ ဒိန်ခဲအသစ် ရှာဖို့ကလွဲပြီး ဘာမှ မရှိဘူး။

အချိန်တော်တော်ကြာကြာ သူတို့ဘာမှ မတွေ့ဘူး။ နောက်ဆုံးတွင်မှ သူတို့မရောက်ဖူးသေးတဲ့ ဝက်ပါတစ်နေရာကို ရောက်သွားတယ်။ . အဲဒီနေရာမှာ ဒိန်ခဲရိပ်သာကြီးတစ်ခု သွားတွေ့တယ်။ ရိပ်သာနာမည်က "အင်န်"တဲ့။

ပျော်လွန်းလို့ သူတို့တတွေ ဆူညံသွားအောင် အော်လိုက်ကြတယ်။ သူတို့ အပင်ပန်းခံရကျိုးနပ်ပြီ။ စားမကုန်နိုင်တဲ့ ဒိန်ခဲအသစ်တွေတွေ့ပြီ။ သူတို့မျက်လုံးတွေကို သူတို့မယုံနိုင်အောင် ဖြစ်နေကြတယ်။ ကြွက်တွေအနေနဲ့ ဒါလောက်များတဲ့ ဒိန်ခဲတွေကို သူတို့တစ်ခါမှ မမြင်ဖူးခဲ့ဘူး။

အဲဒီအချိန်အထိ ... ဟမ်နဲ့ဟောတို့နှစ်ယောက်ဟာ ဒိန်ခဲရိပ်သာ "စီ" ထဲမှာပဲ သူတို့အခြေအနေကို တွက်ဟယ်ချက်ဟယ် လုပ်တုန်းရှိသေးတယ်။

ဒိန်ခဲမစားရတော့ သူတို့ အာဟာရပြတ်စပြု လာပြီ။ ဒီတော့ ဆောက်တည်ရာမရ ဖြစ်လာပြီး စိတ်တွေဆိုး၊ ဒေါသတွေထွက်နဲ့ ရောက်နေတဲ့ အခြေအနေအတွက် တစ်ယောက်အပေါ် တစ်ယောက် အပြစ်ပုံချနေကြတယ်။

ဟောက မကြာခဏ သူတို့မိတ်ဆွေကြွက်နှစ် ကောင်ကို သတိရနေတယ်။ သူတို့နှစ်ကောင် ဒိန်ခဲတွေ တွေ့နေပြီလား။ သူတို့လည်း ဝင်္ကပါထဲမှာ ပြေးလွှားရှာ ဖွေ နေရတော့ လွယ်တော့လွယ်မှာမဟုတ်ဘူး။ ဒါပေမဲ့ ဒီလို ခက်ခဲပင်ပန်းတဲ့ကာလဟာ သိပ်ကြာလိမ့်မယ် မဟုတ်ဘူး ဆိုတာလည်း သူ သိနေတယ်။

တစ်ခါတလေလည်း သူတို့နှစ်ကောင်ဒိန်ခဲ နေရာသစ်တွေ့ပြီး ပွဲတော်ကြီး ဆိုက်နေလောက်ပြီလို့ တွေးမိရဲ့။

ခုနေများ ဝင်္ကပါထဲထွက်ပြီး ဒိန်ခဲသစ် ရှာ ပုံတော်စွန့်စားခန်းဖွင့်လိုက်ရရင် ဘယ်လောက်ကောင်း

လိုက်မလဲလို့ သူတွေးကြည့်တယ်။ .. ချက်ချင်း ဒိန်ခဲ အရသာ လျှာပေါ်ရောက်လာသလိုပဲ။

ဟောဟာ သူ့ကိုယ်သူ ဒိန်ခဲအသစ်တွေ့ပြီး နေပုံကို ပီပီပြင်ပြင် မြင်လာလေ ဒိန်ခဲရိပ်သာ "စီ"ထဲက အမြန်ဆုံးထွက်ချင်လေဖြစ်လာပါရော။

သူက ဆိုင်းမဆင့်ဗုံမဆင့် ဖြုန်းစားကြီး ထ အော်တယ်။

"လာ...တို့လစ်ကြစို့"

ဟမ်က ချက်ချင်းတုံ့ပြန်တယ်။

"ဟာ ... မသွားပါဘူး။ ဒီနေရာပဲ သဘောကျ ဇိမ်ကျတယ်။ ဒါပဲ ငါသိတယ်။ ပြီးတော့ အပြင်ထွက်ရင် အန္တရာယ်များတယ်"

"ဟာ ဘယ်ကလာ၊ တို့ဝက်ပါထဲမှာ နေရာ တော်တော်များများ လျှောက်သွားဖူးတာပဲ။ ဒီအတိုင်း ထပ်လုပ်မယ်လေ"

ဟမ်ကလက်မခံဘူး။

“ငါ အသက်ကြီးပြီ။ ပြီးတော့ ငါ့ကိုယ်ငါ အရှုံးမလုပ်ချင်ဘူး။ မျက်စိလည်နေရင် ဘယ့်နှယ်လုပ်မလဲ။ မအောင်မြင်ရင် ဘယ့်နှယ်လုပ်မလဲ” လို့ ဆင်ခြေပေးပြန်တယ်။

ဒီလိုနဲ့ ဟောလည်း ကြောက်စိတ်တွေ ပြန်ဝင်လာပြီး ဒိန်ခဲအသစ်ရှာဖို့ စိတ်ကူးတွေ တဖြည်းဖြည်း ပျောက်သွားပြန်ရော။

ဒီလိုနဲ့ လူကလေးနှစ်ယောက်ဟာ ပထမရက်တွေကအတိုင်း တလည်လည် ပြန်ဖြစ်နေကြပြန်ရော။ ဒိန်ခဲရိပ်သာ “စီ”ကိုသွား၊ ဘာမှမတွေ့တော့ အိမ်ပြန်၊ စိုးရိမ်စိတ်တွေ၊ စိတ်ဓာတ်ကျစရာတွေနဲ့ပဲ သံသရာပြန်လည်ပေါ့။

တကယ်ဖြစ်နေတဲ့ အဖြစ်မှန်ကို သူတို့ ငြင်းဖို့ကြိုးစားကြတယ်။

ဒါပေမဲ့ သူတို့ အိပ်ပျော်ဖို့တောင် မလွယ်တဲ့ အဆင့်ကို ရောက်လာပြီပေါ့။ နောက်နေ့အတွက်

လှုပ်ရှားဖို့ အားအင်လည်း ကျသထက်ကျလာတယ်။ အဲဒီ့အတွက် ပိုပြီး သူတို့ မခံချိမခံသာဖြစ်လာတယ်။

သူတို့ရဲ့ နေအိမ်တွေဟာလည်း စောစောကလို နေချင့်စဖွယ် မရှိတော့ဘူး။ သူတို့နှစ်ယောက်ဟာ ဒိန်ခဲနဲ့ဝေးလာတော့ အိပ်မပျော်တဲ့ညတွေ များများလာတယ်။ အိပ်ပျော်ပြန်တော့လည်း ခြောက်အိပ်မက်တွေက ဒုက္ခ ပေးလာတယ်။

ဟမ်နဲ့ ဟောတို့နှစ်ယောက်ဟာ ဘာမှမလုပ်သေးဘဲ ဒိန်ခဲရိပ်သာ "စီ" ကိုပဲ နေ့တိုင်းသွားပြီး ဒိန်ခဲတွေ ပြန်ရောက်လာနိုးနဲ့ မျှော်ကိုးနေဆဲပေါ့။

ဟမ်က ဆွေးနွေးတယ်။

"ဒီမယ် ဟော၊ ငါတို့သာ အလုပ်ပိုလုပ်ရင် ဘာမှ ထူးထူးခြားခြား အပြောင်းအလဲ မရှိဘူးဆိုတာ တွေ့ရမှာ။ ဒိန်ခဲတွေဟာလည်း ဒီနားတစ်ဝိုက်မှာ ရှိချင်ရှိနေမှာ။ ဟောဒီနံရံ ဟိုဘက်နားတင် သူတို့ ဝှက်ထားတာ ဖြစ်ချင်ဖြစ်မှာ"

နောက်နေ့ကျတော့ သူတို့နှစ်ယောက် တူးဖို့တွဖို့ကိရိယာတန်ဆာပလာတွေထမ်းပိုးလာကြတယ်။

ဟမ်က စို့ကို နံရံမှာတည်၊ ဟောက တူနဲ့ တဒိုင်းဒိုင်းထုပေါ့။ ဒီလိုနဲ့ “စီ” ဒိန်ခဲရိပ်သာနဲ့ နံရံမှာ အပေါက် ကြီးပွင့်ထွက်သွားတယ်။ သူတို့နှစ်ယောက် အပေါက် ထဲကိုချောင်းကြည့်လိုက်တော့ ဟိုဘက်မှာ ဘာမှမရှိဘူး။

စိတ်ခတ်တွေ အကျကြီးကျသွားကြတာပေါ့။ ဒါပေမဲ့ တစ်ခုခုဖြစ်လာမယ်လို့ သူတို့ ယုံကြည်နေတုန်းပဲ။ ဒါနဲ့ သူတို့ အလုပ်ကို စောစောလုပ်တယ်။ နောက်ကျပြီးမှ ပြန်တယ်။ ပိုပြီးလက်ကြောတင်းအောင် လုပ်ကြတယ်။ ဒီလိုနဲ့ ရောမအပေါက်ကြီး တစ်ပေါက် ထပ်ပွင့်သွားပြန်ရော။

ဟောဟာ လုပ်အားနဲ့ ထုတ်လုပ်မှုအကြောင်း၊ အဲဒီနှစ်ခုရဲ့ ခြားနားချက်အကြောင်း သိလာတယ်။ ဟမ်ကတော့ မလျှော့ဘူး။

“တို့ ဒီမှာထိုင်ပြီး အခြေအနေကို စောင့်ကြည့် မြဲစောင့်ကြည့်နေမယ်၊ တစ်ချိန်ချိန်မှာ သူတို့ ဒိန်ခဲတွေ ပြန်ပို့ကိုပို့ရမယ်”

ဟောက ဟမ်ပြောတာကို ယုံချင်တယ်။ သူနဲ့ အတူ အချိန်တန်ရင်အိမ်ပြန်၊ အနားယူ၊ နောက်တစ်နေ့ သူ နဲ့အတူ “စီ” ဒိန်ခဲရိပ်သာကို ပြန်လာ၊ (ဒါပေမဲ့ စောစောကလို သူ့ခြေလှမ်းတွေ မသွက်တော့ဘူး) ဟိုရောက်တော့ ဘာမှမတွေ့၊ စိတ်ဓာတ်တွေကျ။

ဒီလိုနဲ့ လူကလေးနှစ်ယောက်ဟာ စိတ်ပန်း လူနွမ်း၊ ဒိန်ခဲက ဆာ၊ ဝမ်းကဟာဖြစ်လာတော့ အားလည်း နည်းသထက်နည်းလာရောပေါ့။

ဟောကတော့ အခြေအနေကို စောင့်ကြည့်ပြီး ဖြစ်လာနိုးဖြစ်လာ နိုးနဲ့ အဟောသိကံ ဖြစ်နေရတဲ့ အချိန်တွေကို နှမြောစပြုလာတယ်။ ခုတော့ သဘော ပေါက်လာပြီလေ။ စားစရာဒိန်ခဲမရှိတဲ့ ဒီနေရာမှာ ကြာကြာဆက်နေ လေ . သူတို့အခြေအနေဆိုးလေ.. ဖြစ်လာမယ်ဆိုတာ တဖြည်းဖြည်း သူသိလာပြီ။

ရှိစုမဲ့စုသိက္ခာတွေ ကုန်ပြီဆိုတာလည်း သူနားလည်လာတယ်။ ဒီလိုနဲ့ နောက်ဆုံးတစ်နေ့မှာ ဟောဟာ သူ့အဖြစ်ကို သူပြန်ပြီးရယ်မောတတ်လာတယ်။

"ဟေ့ကောင် ဟော မင်းကိုယ်မင်း ပြန်ကြည့်စမ်း၊ မင်း ဘဝဘာဖြစ်လို့ တိုးတက်မလာတာလဲ။ မင်းခေတ်ပြားဟောင်းကြီးကို ဖွင့်ပြီး နားထောင်နေလို့ပေါ့။ ဒါ့ထက်ရယ်စရာကောင်းတဲ့အဖြစ် ဘာရှိမှာလဲ"

ဟောဟာ ဝက်ပါထဲကို . ပြန်ဝင်ပြေးလွှားဖို့ စိတ်ကူးကို လုံးဝမကြိုက်ဘူး။ အထဲမှာ မျက်စိလည်ပြီး ဒိန်ခဲနဲ့ တစ်သက်လုံးဝေးသွားနိုင်တယ် မဟုတ်လား။ တစ်ပြိုင်တည်းမှာ အဓိပ္ပာယ်မရှိ ကြောက်ရွံ့နေမှန်းလည်း သူ့ကိုယ်သူ သိနေတယ်။ အဲဒီ့အတွက်လည်း သူ့ကိုယ်သူ ပြန်ပြီးရယ်ချင်ပက်ကျိဖြစ်နေတာပေါ့။

သူကဟာမ်ကိုမေးတယ်။

"ဟေ့ ... ငါတို့ အားကစားဝတ်စုံတွေ၊ အပြေးဖိနပ်တွေ ဘယ်ရောက်ကုန်ပြီလဲ"

ဒါတွေကို မလိုတော့ဘူးထင်ပြီး ဒိန်ခဲရိပ်သာ "စီ" ကိုစတွေ့ကတည်းက သူ့ကို ပစ်စလက်ခတ် ထားလိုက် ကြတယ်လေ။ မနည်းပြန်ရှာယူရတယ်။

သူငယ်ချင်းဖြစ်သူ ဟောက အားကစားပစ္စည်း တွေပြန်တွေ့သွားတော့ ဟမ်ကမေးတယ်။

"မင်း တကယ် ဝင်္ကပါထဲဝင်ရှာမလို့လား။ ဘာ လို့ ငါနဲ့အတူ ထိုင်စောင့်မနေတာလဲ။ သူတို့ ဒိန်ခဲတွေ ပြန် လာပို့မှာပါကွ"

ဟောကပြန်ပြောတယ်။

"မင်း ငါ့ကို သဘောမပေါက်ပါဘူး။ သူတို့ ပြန် လာထားတဲ့ ဒိန်ခဲကိုလည်း ငါစိတ်မဝင်စားဘူး။ အဲဒီ ဒိန်ခဲအသိုးအကျိတွေကိုလည်း သူတို့ ဘယ်တော့မှ ပြန် လာထားမှာမဟုတ်ဘူး။ ငါတို့ဒိန်ခဲအသစ်ကိုရှာရမှာ"

ဟမ်က ငြင်းမြဲဆက်ငြင်းတယ်။

"တကယ်လို့ သူတို့မှာ ဘာဒိန်ခဲမှ မရှိတော့ဘူး ဆိုရင်ရော၊ ဒါမှ မဟုတ် သူတို့မှာ ရှိတယ်ထားဦး၊ မင်း ရှာလို့မတွေ့ဘူးဆိုရင်ရော"

"အဲဒါတော့ ငါလည်းမသိဘူး"

ဒီမေးခွန်းကို သူ့ကိုယ်သူ မကြာမကြာ ပြန်မေး ဖူးပြီး အဖြေမတွေ့တဲ့အတွက် ဟောက အမှန်အတိုင်း ပြောလိုက်တာလေ။ အဲဒီလို ဖြစ်မှာကိုကြောက်ပြီး သူ အပြင်ကိုမထွက်ရဲတာပေါ့။

ခုတော့ ဒိန်ခဲအသစ်နောက်ကိုလိုက်ဖို့ သူ ဆုံး ဖြတ်ပြီးပြီ။ အဲဒီ ဆုံးဖြတ်ချက်နဲ့အတူ အားအင်တွေ၊ သတ္တိ တွေလည်း သူ့မှာ အပြည့်အဝစုဆောင်းမိပြီလေ။

ဟောကသူ့အမြင်ကိုထုတ်ပြောတယ်။

"တစ်ခါတလေ အရာဝတ္ထုတွေဟာ ပြောင်းလဲ နေတယ်။ ဘယ်တော့မှ နဂိုအတိုင်း ပြန်မဖြစ်တော့ဘူး။ ခုဖြစ်နေတာက အဲဒီအတိုင်းပဲ ဟမ်၊ ဒါဟာ ဘဝပဲ။ ဘဝဆိုတာ ရပ်မနေဘူး။ ဆက်သွားနေတယ်၊ တို့လည်း ရပ်နေ လို့မရဘူး"

ဟောက စိတ်ခတ်ကျနေတဲ့ သူငယ်ချင်းဖြစ်သူကို အမြင်မှန်ရအောင် ကြိုးစားပေမယ့်လည်း ဟမ်ရဲ့ ကြောက်ရွံ့မှုဟာ ဒေါသအသွင်ကို ပြောင်းသွားပြီး တင်းမာ သည့်ထက် တင်းမာလာပါလေရော။ ဟောက သူငယ်ချင်းအပေါ်ကို ဒေါသမဖြစ်ရှာဘူး။ ဒါပေမဲ့ သူတို့ နှစ်ယောက်ရဲ့မိုက်မဲပုံကိုတွေးပြီးရယ်မိတယ်လေ။

ပြောမရတဲ့အဆုံး ဟောက တစ်ယောက်တည်း စွန့်စားခန်းဖွင့်ဖို့ ပြင်ဆင်ရတော့တာပေါ့။ အဲဒီလို ဆုံးဖြတ်လိုက်တာနဲ့ ဟောက ချက်ချင်း ဖျတ်ဖျတ် လတ်လတ် ဖြစ်လာတယ်။ နောက်ဆုံးတော့ ကိုယ့်ဘာသာ ကိုယ်ပြန်ပြီး ရယ်မောလာနိုင်တယ်ပေါ့။ ကဲ .. ချီတက်မယ်။

"ဒါဟာဝက်ပါထဲဝင်ဖို့ ရက်ရာဇာပဲ"

လို့ပြောတော့ ဟမ်က အင်းမလုပ် အဲမလုပ်နဲ့ တုံနိဘာဝေ တိတ်တိတ်ပဲနေတယ်။ ဟောက ကျောက်ခဲ ချွန်ချွန်ကလေးတစ်ခု ကောက်ယူပြီး ဟမ် တစ်ယောက် အမြင်မှန်ရပါစေတော့ ရယ်လို့ နံရံမှာ

အလေးအနက်ရေးခဲ့တယ်။ ထုံးစံအတိုင်း ဟောက စာတမ်းကို ငုံပြီး ဒိန်ခဲပုံဆွဲခဲ့သေးတယ်။

ဟမ်တစ်ယောက် ပြုံးဖော်ရယ်ဖော် ရလာမလားရယ်လို့ပေါ့။ တက်တက်ကြွကြွဖြစ်လာပြီး ဒိန်ခဲရှာပုံတော်ခရီးကို သူနဲ့အတူများ လိုက်ချင်စိတ် ပေါ်လာမလားရယ်လို့ပေါ့။

ဒါပေမဲ့ဟမ်ကတော့ မော်တောင်မကြည့်ဘူး။

သူရေးခဲ့တဲ့အကြောင်းက ---

သင်ဟာအပြောင်းအလဲမလုပ်လျှင် သင့်ဘဝ
ဆုံးခန်းတိုင်သွားနိုင်တယ်။

အဲဒီနောက် ဟောဟာ ရင်တလှပ်လှပ်ခုန်ပြီး ဝက်ပါထဲကိုခေါင်းပြူကြည့်လိုက်တယ်။

ပြီးတော့ဘာမှ စားစရာမရှိတဲ့ နေရာမှာ ဘာလို့ ဒါလောက်အကြာကြီး နေခဲ့မိပါလိမ့် ဆိုတာလည်း ပြန်တွေးနေမိရဲ့။

ဝက်ပါထဲမှာ ဒိန်ခဲဆိုတာ ရှိချင်မှလည်း ရှိလိမ့်မယ်။ တွေ့ချင်မှလည်းတွေ့လိမ့်မယ်။ အဲဒီလိုတွေးမိရင် သူ ဆောက်တည်ရာမရ ဖြစ်လာတယ်။ အဲဒီအတွေးက သူ့ကို နှိပ်စက်သလိုဖြစ်လာရော။

ဟောက ပြုံးလိုက်တယ်။ ဟမ်က သူ့ဒိန်ခဲတွေကို ဘယ်သူနေရာ ရွှေ့ထားသလဲဆိုတာ သိချင်နေတဲ့ အကြောင်း ဟောသိတယ်။ ဟောကိုယ်တိုင် နားမလည်ဖြစ်နေတာကတော့ “ဘာကြောင့် ငါချက်ချင်း ထပြီး ဒိန်ခဲရှိရာကို ထွက်မရှာသေးတာလဲ” ဆိုတဲ့ အချက်ပဲ။

သူ ဝင်္ကပါထဲကို ထွက်လာခဲ့တယ်။ လာခဲ့တဲ့ အရပ်ကို သမင်လည်ပြန်ပြန်ကြည့်ပြီး စိတ်ထဲကျေနပ် သွားသလိုပဲ။

ဝင်္ကပါနံရံမှာ စာရေးပြန်တယ်။ ပြီးတော့ ခဏ စိုက်ကြည့်နေမိသေးတယ်။

# မင်းမကြောက်တော့ဘူးဆိုရင် ဘာဆက်လုပ်မလဲ

ဒီအကြောင်းကို သူ စဉ်းစားတယ်။

တစ်ခါ တလေတော့ ကြောက်တတ်တာ အကျိုးရှိတယ်လို့ သူနားလည်တယ်။

တစ်ခုခုကို မလုပ်ဖြစ်လို့ အခြေအနေပိုဆိုးလာပြီး ကြောက်စိတ် ဝင်လာ တဲ့အခါမျိုးမှာ ချက်ချင်းထလုပ်ဖြစ်သွားတာမျိုး ရှိတယ်။

သူ . ညာဘက်ကိုကြည့်လိုက်တယ်။ လုံးဝမရောက်ဖူးသေးတဲ့နေရာ။ ကျောထဲစိမ့်သွားတယ်။

ဒါပေမဲ့ သက်ပြင်းတစ်ချက်ချပြီး နယ်မြေသစ်ထဲကို တိုးဝင်ခဲ့တယ်။ ခပ်ဖြည်းဖြည်း အပြေး ခြေလှမ်းတွေနဲ့ပေါ့။

ဘယ်လမ်းကို ရွေးရပ့ါမလဲ။ ပထမတော့ ဟောစိတ်ပူစပြုလာတယ်။ "စီ" ဒိန်ခဲရိပ်သာမှာ ငါ အခြေအနေ စောင့်ကြည့်တာ အချိန်တွေ သိပ်ကြာသွားသလား။ ဒိန်ခဲမစားရတာကြာတော့ သူ အရမ်းအားနည်းနေပြီလေ။

ဒါကြောင့် သွားရတာ ခရီးမတွင် ဘူး။ ခါတိုင်း ထက်ပိုပြီးမချိမဆံ့ အားစိုက်နေရတယ်။

အဲဒီ့မှာ ဆုံးဖြတ်ချက်တစ်ခု ချပစ်လိုက်တယ်။ နောက် ဒီလိုအဖြစ်မျိုးနဲ့ကြုံရင် အပြောင်းအလဲနဲ့ လိုက်ပြီး အပြောင်းအလဲလုပ်မယ်ဆိုတဲ့ ဆုံးဖြတ်ချက်ပဲ။ သူ အဲဒီလို လုပ်ဖြစ်ရင် ခုတွေ့နေရတဲ့ အခက်အခဲတွေကိုရင်ဆိုင်ရမှာ မဟုတ်ဘူး။

ပြီးတော့ သူ ပြုံးလိုက်ပြန်တယ်။ ခပ်ယဲ့ယဲ့ပြုံးရင်းသူတွေးတယ်။

အင်း.. နောက်ကျတယ်ဆိုတာ လုံးဝမလုပ်ဖြစ်တာနဲ့စာရင် တော်သေးတာပေါ့။

နောက်ရက်တွေမှာ ဒိန်ခဲကို တွေ့ပါရဲ့။ ဒါပေမဲ့ ဟိုနားနည်းနည်း၊ ဒီနားနည်းနည်းလောက်ပါပဲ။ နေ့ဖို့ညစာ ရယ်လို့တော့ မရပါဘူး။

ဒါပေမဲ့ သူဖွဲ့မလျှော့ဘူး။ ဒိန်ခဲတွေ အလုံအလောက် တွေ့မှာပဲလို့ မျှော်လင့်ထား တုန်းပဲ။ အဲဒီ

အခါမှာ သူငယ်ချင်းဟမ်ဆီကို သယ်သွားပြီး အဝ ကျွေးမယ်၊ ပြီးတော့ ရှာပုံတော်ခရီးထွက်ဖြစ်အောင် သူ့ကို စည်းရုံးမယ်ပေါ့။

ဒါပေမဲ့သူ့ကိုယ်သူယုံကြည်မှုကတော့ တဖြည်းဖြည်း နည်းနည်းလာပြီ။ ဝက်ပါထဲမှာ သူ့စိတ်ဓာတ်တွေ ရှုပ်ထွေးလာနေတယ်။ အားလုံးဟာ ဟိုတုန်းကနဲ့ မတူဘဲ ဝက်ပါတစ်ခုလုံး အနေအထားပြောင်းလဲသွား သလိုပဲ။

ရှေ့ဆက်တိုး သွားမယ်လုပ်တိုင်း လမ်းမှား တော့မှာပဲ။ မျက်စိလည်တော့မှာပဲဆိုပြီး တွေးမိလာ တယ်။ သူ့တိုးတက်မှုက ရှေ့နှစ်လှမ်းတိုး၊ နောက် တစ်လှမ်းဆုတ် ဆိုတာမျိုးဖြစ်နေတာပေါ့။

ဘာပဲဖြစ်ဖြစ် ဒါဟာ သတ္တိပဲ။ တစ်ခုသေချာ တာကတော့ ဝက်ပါထဲမှာ ဒိန်ခဲရှာရတာ၊ သူ စောစော ပိုင်းက တွေးကြောက်ခဲ့သလောက်တော့ မဆိုးဘူး ဆိုတာပဲ။

ဒီလိုနဲ့ အချိန်တွေတဖြည်းဖြည်း ကုန်လာတယ်။ သူ့ခေါင်းထဲမှာ အတွေးတစ်မျိုးဝင်လာပြန်ပြီ။ ဒိန်ခဲအသစ် လိုက်ရှာနေတဲ့အလုပ်ဟာ အဓိပ္ပာယ်ကော ရှိပါ့မလား။ ဖြစ်ကောဖြစ်နိုင်ချေရှိရဲ့လား စသဖြင့်ပေါ့။ ဝါးနိုင်တဲ့ ပမာဏထက် ပါးစပ်က ပိုကိုက်တဲ့ အလုပ်မျိုး ဖြစ်နေမလား။ ဘာ လားညာလားပေါ့။

ပြီးတော့မှ လောလောဆယ် ဝါးစရာဘာမှ မရှိတဲ့အဖြစ်ကိုတွေးမိပြီး သူရယ်မိပြန်တယ်။

အဲဒီလို စိတ်ဓာတ်ကျစရာတွေ တွေးမိတိုင်း ဘာမှစားစရာမရှိတဲ့ နေရာမှာ ထိုင်နေတာနဲ့စာရင် အပြင်ထွက်ပြီး လှုပ်ရှားနေတာက အပုံကြီး အဓိပ္ပာယ် ရှိတယ်ဆိုပြီး သူ့ကိုယ်သူ သတိပေးတယ်။ နောက်တော့ သူ့ကိုယ်သူ ထိန်းချုပ်နိုင်လာတယ်။

ပြီးတော့ အားတက် စရာတစ်ခုနဲ့ သူ့ကိုယ်သူ သတိပေးသေးတယ်။ စနစ်ဖ်တို့ စကားရီးတို့တောင် လုပ် နိုင်သေးရင် ငါ ဘာကြောင့် မလုပ်နိုင်ရမှာလဲပေါ့။

နောက်တော့ ဟော ပြန်စဉ်းစားတယ်။ စေ့စေ့တွေးတော့ရေးရေး ပေါ်လာတယ်။ ခုမှ အမှန်ကို ပြန်တွေးမိတာလေ။ "စီ"ဒိန်ခဲရိပ်သာမှာ ဒိန်ခဲတွေဟာ ဟိုတုန်းက ထင်သလိုနေ့ချင်းညချင်း ပျောက်သွားတာမှ မဟုတ်ဘဲ။

နောက်ပိုင်းရက်တွေမှာ ဒိန်ခဲတွေ နည်းသထက် နည်းလာတာပဲ။ ပြီးတော့ အဲဒီဒိန်ခဲ အကျန်တွေက လည်းလတ်မှမလတ်တော့တာပဲ။ အရသာ တဖြည်းဖြည်း ပျက်လာတာကို ခုမှပြန်တွေးမိတယ်လေ။

မှိုလိုက်လာတာဖြစ်မှာပေါ့။ ဒါကို သူ ဟိုတုန်းက သတိမထားမိခဲ့ဘူး။ အဲဒီတုန်းကသာ သတိရှိမယ်ဆိုရင် အခြေအနေကို အကဲခတ်မိနိုင်စရာ ရှိတာပေါ့လို့ သူ့ကိုယ်သူ ဝန်ခံရတော့တယ်လေ။

ခုမှ ဟော သဘောပေါက်တော့တယ်။ အပြောင်းအလဲက သူ့ဆီကို ရုတ်ခြည်းရောက်လာတာ မဟုတ်ဘူး။ သူနမော်နမဲ့နိုင်ခဲ့လို့ အပြောင်းအလဲကို

မမြင်ခဲ့တာ။ စနစ်ဖ်နဲ့ စကားရီးတို့ နှစ်ကောင်က ကြိုမြင်ကြပုံ ရတယ်။

သူခဏနားပြီးဝက်ပါနံရံမှာ ရေးပြန်တယ်။

ရွှေဦးကဗျာ

ဒိန်ခဲကို ခဏခဏနမ်းကြည့်ပါ။ ဒါမှ မှိုတက်မတက်
သင်သိမှာ

ဒီလိုနဲ့ အချိန်တွေကြာလာတော့ ဟောရဲ့စိတ်ထဲမှာ ဒိန်ခဲမမြင်ရတာ ကမ္ဘာချီပြီး ကြာနေပြီလို့ထင်လာတယ်။ နောက်ဆုံး ဒိန်ခဲသိုလှောင်ရုံကြီးတစ်ခုကို သွားတွေ့တယ်။ သေချာပြီလို့ စိတ်ချလက်ချတွက်လိုက်တယ်။ အထဲကိုလည်း ဝင်ကြည့်လိုက်ရောဟောင်းလောင်း ဖြစ်နေတဲ့ အခန်းကြီးက သူ့ကို သရော်နေသလိုပဲ။ စိတ်ဓာတ် တွေလည်းကျလိုက်တဲ့ဖြစ်ခြင်း။

“အင်း ... ငါ့မှာလည်း စိတ်ဓာတ်ကျစရာတွေကကုန်ပဲ မကုန်နိုင် တော့ပါလား” လို့ တွေးမိပြီးလက်လျှော့ ချင်ချင်ဖြစ်လာတယ်။

တဖြည်းဖြည်းနဲ့ အားအင်လည်း ဆုတ်ယုတ်လာပြီ။ တိုက်ပွဲရှုံးပြီလို့ သူထင်လာတယ်။ သေရမှာတွေးကြောက်လာတယ်။

“စီ” ဒိန်ခဲရိပ်သာဘက်ကို တစ်ခေါက်ပြန်ဖို့ သူစိတ်ကူးလိုက်တယ်။ ဒီမှာက တစ်ယောက်တည်းရယ်။ ဟိုမှာဆိုဟမ်အဖော်ရှိသေးတယ်ပေါ့။

မေးဖူးပြီးသား မေးခွန်းဟောင်းကို သူ့ဘာသာ သူပြန်မေးလိုက်ပြန်တယ်။

“မကြောက်ဘူးဆိုရင်ငါဘာလုပ်မလဲ”

အမှန်က သူ့ကိုယ်သူ ဝန်မခံပေမယ့် သူ ပိုပြီး ကြောက်လာတာ။ ဒါပေမဲ့ ဘာကိုကြောက်နေမှန်း သူ မသိဘူး။

တကယ်တော့ အားအင်ချည့်နဲ့နေတဲ့ ဘဝနဲ့ တစ်ယောက်တည်း ဆက်သွားရမှာကို သူ ကြောက်နေတာ။

ကျန်နေခဲ့တဲ့ ဟမ်အတွက်လည်း သူ တွေးပူတယ်။ အကြောက်လွန်ပြီးတော့ လေမျှားဖြတ်နေမလား။ အဲဒီမှာသူ တစ်ခုဖျတ်ခနဲ သတိရလိုက်တယ်။ ဝက်ံပါထဲ ပြန်ထွက်လာတော့ စိတ်ခါတ်ဆွေ တက်ကြွနေတဲ့ အချိန် တစ်ချိန်ရှိခဲ့တာပဲ။ အဲဒီအချိန်ဟာ “ရှေ့သို့”တိုးဝင်နေ ချိန်ပဲ။

ဒီတစ်ခါ သူ နံရံပေါ်မှာ ရေးလိုက်ပြန်တယ်။ ဒီစာတန်းကတော့ သူ့ကိုယ်သူသတိပေးတဲ့အနေနဲ့ရော၊

ဟမ် လိုက်လာလို့ ဖတ်မိရင် သူ့ကို ခြေရာခံနိုင်ဖို့ပါ
မျှော်လင့်ချက်ကြီးစွာနဲ့ သူရေးလိုက်တာပဲ။

လမ်းသစ်ကို လိုက်ရင် သင့်ဒိန်ခဲရှာပုံတော်အတွက်
အကူအညီရလိမ့်မယ်။

ဟောဟာ မှောင်မည်းနေတဲ့ ဝက်ပါစကြီး လမ်းထဲကို ငုံ့ကြည့်လိုက်တယ်။ သူ့ကိုယ်သူ ကြောက်စိတ်တွေ ဝင်နေမှန်း သတိထားမိတယ်။ ရှေ့မှာ ဘာတွေရှိနေပါလိမ့်။ ဘာမှ မရှိတဲ့လမ်းတွေလား။ ဒါထက်ဆိုးတဲ့ အန္တရာယ် ချောက်ကမ်းပါးတွေလား၊ ဖြစ်နိုင်ခြေရှိသမျှ ကြောက်စရာ မြင်ကွင်းတွေ သူမြင်ယောင်လာပြီး လိပ်ပြာ လွင့်မတတ် သူလန့်နေပါလေရော။

နောက် သူ့ကိုယ်သူ ရယ်မောမိပြန်တယ်။ အကြောက်တရားဟာ အရာတိုင်းကို ပိုဆိုးစေတယ်ဆိုတာ သူတွေးမိလို့လေ။ ဒီတော့ မကြောက်ရင် လုပ်ရမယ့် အလုပ်ကို စဉ်းစားမိပြီး သူ ဆက်လုပ်တယ်။ အဲဒါကတော့ လမ်းကြောင်းသစ်ရှာပြီး ရှေ့တိုးခရီးနှင်တဲ့အလုပ်ပါပဲ။

မှောင်နဲ့မည်းမည်း လမ်းတစ်လျှောက်မှာ ပြေးနေရင်း သူပြုံးလိုက်မိတယ်။ သေသေချာချာမသိသေးပေမယ့် သူ့ဝိညာဉ်ကို အားဖြည့်ပေးတဲ့အရာဟာ ဘာလဲဆိုတာရှာဖွေတွေ့ရှိသွားပြီ။

တိတိကျကျ ပုံဖော်မရသေးပေမယ့် သူ့ရှေ့မှာ တစ်စုံတစ်ရာ ရှိနေပြီဆိုတာ သူယုံကြည်လိုက်ပြီ။

အဲဒီမှာ အံ့ဩစရာကို တွေ့ရတော့တာပဲ။ ဟော တစ်ယောက် အပျော်ကြီးပျော်လာတဲ့အဖြစ်ပဲ။ ဘယ်တုန်း ကမျှနဲ့ မတူအောင်ပျော်နေတာလေ။

သူ့ကိုယ်သူလည်း အံ့ဩမဆုံးဘူး။

“ငါ ဘာလို့ ဒါလောက် အူမြူးနေတာပါလိမ့်။ ငါ့မှာ စားစရာဒိန်ခဲလည်း မရှိ၊ ငါ ဘယ်သွားနေမှန်း လည်းမသိဘဲနဲ့”

သိပ်မကြာခင်အချိန်မှာပဲ သူ ဘာကြောင့် ဒီလို ပျော်ရွှင်မှုမျိုးကို ခံစားရတယ်ဆိုတာ သူ သဘောပေါက် လာတယ်။ နံရံမှာစာရေးဖို့သူ တုံ့ခနဲရပ်လိုက်ပြန်တယ်။

ကြောက်ရွံ့ခြင်းကို ကျော်လွှားပြီး သင်

ရှေ့ဆက်သွားရင် လွတ်လပ်မှု အရသာကို သင်

ခံစားရမယ်။

သူကိုယ်ပိုင် အကြောက်တရားက သူ့ကိုပြန်ပြီး လွှမ်းမိုးထားတယ်ဆိုတာ ဟော မြင်လာပြီ။ လမ်းသစ် နောက်ကို လိုက်မိလို့ ဒီအရိပ်မည်းကြီးအောက်မှာ သူ ရုန်းထွက်နိုင်ခဲ့တာ။

ဝက်ပါလမ်းထဲမှာ တိုက်ခတ်လာတဲ့ ညင်းပြည် ပြည် လေအေးအေးကို သူ ခံစားရတယ်။ ဒီတော့ စိတ်ထဲ မှာပေ့ါပါးလန်းဆန်းလာတယ်။

လေကို တစ်ဝကြီးရှူသွင်းလိုက်တော့ အားအင် တွေပြည့်လာသလိုထင်ရတယ်

ဒီလိုကြောက်ရွံ့ခြင်းမှ ကင်းဝေးလာတာနဲ့ တစ်ပြိုင်နက် ခံစားရတဲ့ ပျော်ရွှင်မှုက သူ ကြိုထင် ထားတဲ့ ပျော်ရွှင်မှုမျိုးနဲ့ ဘာမှမဆိုင်ဘူး။ သိပ်ကို ထူးခြားတဲ့ ပျော်ရွှင်မှုမျိုးပဲ။ ဒီလိုမပျော်မိတာ ကမ္ဘာ လောက်ကြာပြီ ထင်ရဲ့။ ပျော်ရွှင်မှု ဆိုတာကိုတောင် သူမေ့သလောက်ဖြစ်နေပြီကိုး။

ဒီတော့ ဘဝကို ပိုပြီး စိုစိုပြည်ပြည်ဖြစ်လာ အောင် သူစိတ်ထဲမှာပုံဖော်ကြည့်လိုက်တယ်။

သူအကြိုက်ဆုံး ဒိန်ခဲ အမျိုးအစားတွေ တောင် ပုံရာပုံရဲ့အလယ်မှာ ရောက်နေတဲ့ သူ့ရုပ်ပုံလွှာကို ပီပီပြင်ပြင် သူပြန်မြင်နေရတယ်။

ဒိန်ခဲတွေက တံဆိပ်မျိုးစုံ၊ ကမ္ဘာကျော်၊ "ချက် ဒါ" တို့၊ "ဘရိုင်း" တို့အပါအဝင်ပေါ့။

သူအကြိုက်ဆုံးဒိန်ခဲတွေကို ကြိုက်သလောက် ထိုင်စားနေတဲ့ သူ့ပုံကိုသူ သေသေချာချာမြင်နေ ရတယ်။ အဲဒီလိုမြင်ရတဲ့အတွက် သူပျော်လာတယ်။

အဲဒီမှာ သူ စဉ်းစားတယ်။ ဒီနတ်သုဓာတမျှ အရသာရှိတဲ့ဒိန်ခဲတွေကို သူ ဘယ်လောက်စား နိုင်မှာ လဲ။

ဒိန်ခဲအသစ်တွေကို သူ့မျက်စိထဲမှာ ပြက်ပြက် ထင်ထင် မြင်လာလေ တကယ့်ဒိန်ခဲတွေနဲ့ တူလာလေ ပဲ။ အဲဒီလို သူအာရုံထဲမှာ ပိုပြီးပြင်းပြ လာတဲ့အခါ ဒိန်ခဲအစစ် တွေကိုတွေ့ရတော့မယ်လို့ သူပိုပြီးယုံကြည် လာတယ်။

အဲဒီအခါ နံရံမှာ သူရေးပြန်ရော။

ကျွန်တော့်စိတ်ထဲမှာဒိန်ခဲတွေကိုမတွေ့ခင်

တကယ်စားရတယ် ထင်လာတယ်။ အဲဒါကြောင့်

ဒိန်ခဲရှိရာကို

ကျွန်တော်ရောက်တော့မယ်ထင်လာတယ်

"ဘာကြောင့် ငါ ဒီလို စောစောမလုပ်ခဲ့မိတာလဲ"လို့ဟောသူ့ကိုယ်သူပြန်မေးတယ်။

အဲဒီမှာ ဝက်ပါလမ်းတစ်လျှောက် သူ့အပြေးနှုန်းဟာ စံချိန်တက်လာတော့တာပဲ။ ပိုပြီး အားပါလာတယ်။ ခြေလှမ်းတွေပိုသွက်လာတယ်။

မကြာခင်အတွင်းမှာပဲ ဒိန်ခဲရိပ်သာကြီးတစ်ခုကို သူတွေ့ပြန်တယ်။ ဒီတစ်ခါတော့သေချာပြီပေါ့။ အဝင်ဝမှာ ဒိန်ခဲအစအနတွေတွေ့ရတာကိုး။

အလို၊ တစ်ခါမှမမြင်ဖူးတဲ့ ဒိန်ခဲအမျိုးအစားတွေပါလား။ မြင်တာနဲ့ သိနိုင်တယ်လေ။ တကယ့်အကောင်း ဆုံးအညွန့်အဖူးတွေ၊ မြည်းကြည့်တော့ထင်တဲ့အတိုင်းပါ ပဲဗျာ။ ကောင်းမှကောင်း။

ဒိန်ခဲအစအနတွေကို တွေ့သမျှ သူကောက်စားတယ်။ ပြီးတော့ တွေ့သမျှအစအနတွေကို အိတ်ထဲကောက်ထည့်သေးတယ်။ ဟမ်နဲ့အတူ စားဖြစ်ချင်စားဖြစ် မှာလေ။ သူ့မှာအားတွေမာန်တွေ ပြန်ပြည့်လာတယ်။

စိတ်လှုပ်ရှားမှုအပြည့်နဲ့သူအထဲကိုဝင်ခဲ့တယ်။

ဘုရား၊ ဘုရား၊ သူ အရမ်းစိတ်ဓာတ်ပျက်သွားတယ်။ အထဲမှာကျတော့ဘာမှမရှိပါလား။ တစ်စုံတစ်ယောက်က ဒီနေရာကို အရင်ရောက်ပြီး ဒီနောက်ဆုံးပေါ် ဒိန်ခဲသစ်တွေ သယ်သွားပြီပေါ့။ ငါတွေ့ခဲ့တာ ငါစားခဲ့တာက ဖိတ်ကျကျန်ရစ်တဲ့ အစအနကလေးတွေ ပါလား။

ဒီတော့မှ သူ နောင်တရတယ်။ စောစောစီးစီးသာ တက်ကြွလိုက်ရင် ဒီနေရာဟာ သူ့နေရာဖြစ်ရမယ်ပေါ့။

အဲဒီမှာ ဟော ဆုံးဖြတ်ချက်တစ်ခု ချလိုက်ပြန်တယ်။ ဟမ်ဆီကိုပြန်သွားမယ်။ နှစ်ယောက်သား ပူးပေါင်း ကြိုးစားမယ်၊ သူ အသင့်ဖြစ်ပါ့ မလား။

ဒီလိုနဲ့ နောက်ကြောင်းပြန်လှည့်ပြီး တစ်နေရာရာမှာရေးပြန်တယ်။

ဒိန်ခဲဟောင်းတွေကို မြန်မြန်သံယောဇဉ်ဖြတ်နိုင်လေ၊
ဒိန်ခဲသစ်တွေ့ဖို့ မြန်လေပဲ။

ရွှေဦးကေတု

ဟောတစ်ယောက် လာရာလမ်းအတိုင်း လှည့်ပြီး ဒိန်ခဲရိပ်သာ “စီ”ရှိရာကို အရောက်ပြန်လာခဲ့တယ်။ ယူလာခဲ့တဲ့ ဒိန်ခဲလတ်လတ် ဆတ်ဆတ်တွေ ဟမ့် ကိုပေးတယ်။ ဒါပေမဲ့ဟမ်ကလက်မခံဘူးဗျာ။

ဟော .. အရမ်းစိတ်ဓာတ်ကျသွားတယ်။ စိတ်ပျက်ပျက်နဲ့ ပြန်ထွက်လာခဲ့ရတာပေါ့။ ဒုံရင်းကို ပြန်ရောက် အောင်သွားပြီး ခရီးဆက်ရပြန်တယ်ပေါ့။ နောက်ဆုံး ပြန်လှည့်ခဲ့တဲ့ နေရာရောက်တော့ သူငယ်ချင်း လုပ်တဲ့လူကို သူအရမ်း သတိရလာပြန်ရော။ ဒါပေမဲ့ သူရောက်ခဲ့တဲ့ခရီး၊ သူရရှိခဲ့တဲ့ အတွေ့အကြုံတွေအတွက်လည်း သူကြည်နူးနေတယ်။

သူ့ အဓိကပန်းတိုင်ဟာ ဒိန်ခဲများများ ရဖို့ တစ်ခုတည်း မဟုတ်ဘူးဆိုတာ သူသိလာတယ်။ သူ့ကို ပျော်ရွှင် မှုရစေတာဟာ ဒိန်ခဲတစ်ခုတည်းမဟုတ်ဘူး။

ကြောက်လို့ ပြေးနေတာမဟုတ်ဘဲ ကိုယ့်ရည်ရွယ်ချက်နဲ့ကိုယ် ပြေးနေတယ်ဆိုတာသိတော့ ကိုယ့်ဘဝကို ပိုပြီး ကျေနပ်လာတယ်။ အဲဒီလို မြင်တတ်

လာတော့ ဟောဟာ စားရမယ့်၊ သောက်ရမယ့်ဘဝ နဲ့ "စီ" ဒိန်ခဲရိပ် သာမှာနေခဲ့တဲ့ အလဟဿအချိန်တွေမှာ လို အားတုံ့အားငယ် မဖြစ်တော့ဘူး။

အဲဒီလိုဘဝအမြင်တွေ ပြောင်းလာတဲ့အချိန်၊ အကြောက်တရားဟာ သူ့ကိုအတားအဆီး မဖြစ်နိုင်တော့ ဘူးဆိုတာ သိလာတဲ့အချိန်မှာ လမ်းသစ်ထဲကို စွန့်စွန့်စားစား ဝင်လာခြင်းရဲ့ အကျိုးအာနိသင်ကိုလည်း သူ မြင်လာတော့တာပေါ့။ ဒီလို လမ်းသစ်နောက်ကို လိုက်ခဲ့တဲ့အတွက် အာဟာရတွေ ပြည့်လာတာ၊ ခွန်အားသစ်တွေ ရလာတာ မဟုတ်လား။

ခုတော့ သူ ကောက်ချက်တစ်ခုဆွဲနိုင်ပြီ။ လိုတာကိုမရခင်မှာ အချိန်ဟာ အခရာပဲဆိုတဲ့ အသိတစ်ခုပဲ။

တကယ်တော့ ဟောဟာ အဲဒီအချိန်မှာ သူ့ရဲ့ ပန်းတိုင်ဟာ လက်တစ်ကမ်းမှာ ရှိနေပြီဆိုတာ သူ သိနေပြီ။

အဲဒီလို သေသေချာချာသိလိုက်တော့ သူ ပြုံးလိုက်တယ်။

ရွှေဦးကဗျာ

ဒိန်ခဲမရှိတဲ့နေရာမှာ စောင့်ဆိုင်း နေရတာထက်
ဝက်ပါထဲကို လျှောက်သွားနေရတာက
ပိုပြီးအန္တရာယ်ကင်းတယ်။

ရွှေဝါကော

ဘဝအတွေ့အကြုံများလေ၊ အသိတိုးလေပဲမို့ ဟော တစ်ယောက် လောကအမြင်သစ်တစ်ခု ထပ်ရပြန်တယ်။

တစ်ခုခု တွေးကြောက်နေတယ် ဆိုပါတော့။ အဲဒီတစ်ခုခုကို နဖူးတွေ့ဒူးတွေ့ ကြုံတဲ့အခါ ထင်သလောက် ကြောက်စရာမကောင်းဘူးဆိုတဲ့ အချက်ပဲ။ သင့်စိတ်ထဲမှာ သင့်ခွင့်ပြုချက်နဲ့ အုံကျင်းဖွဲ့ပြီး စုဝေးနေတဲ့ အကြောက်တရားဟာ တကယ့်တကယ်ရင်ဆိုင်ရတဲ့အခါ အမှန်ထက်ပိုပြီး ကြောက်စရာကောင်းနေတဲ့ သဘောပဲ။

ဟောဟာ ဒိန်ခဲအသစ် ရှာမတွေ့မှာကို သေမလောက်ကြောက်ခဲ့တယ်။ ဒါ့ကြောင့် ထွက်ရှာချင်စိတ် တောင်မရှိဘဲဖြစ်ခဲ့တယ်။

ဒါပေမဲ့ သူ့ရဲ့စွန့်စားခန်းခရီး ထွက်လာကတည်း သူခရီးကို အသက်ဆက်နိုင်အောင်တော့ ဒိန်ခဲတွေ ဟိုတစ်စ သည်တစ်စတွေ့ခဲ့တာပဲ မဟုတ်လား။

အဲဒီအင်အားနဲ့ပဲ ခရီးဆက်ဖို့ သူ တာစူနေပြီ။ အဲဒီလို ရှေ့ကို မျှော်ကြည့်လိုက်မိတာနဲ့ သူ့ရင်ထွေ ခုန်နေပြီ။ စိတ်တွေလှုပ်ရှားနေပြီ။

သူ့ရဲ့ သံချေးတက်နေတဲ့ လောကအမြင် ဟောင်းတွေဟာ သံသယတွေ၊ စိုးရိမ်စိတ် တိမ်သလာ တွေဖုံးနေခဲ့တယ်ဆိုတာသူမြင်လာပြီ။

သူဟာ ဒိန်ခဲတွေ ဘယ်တော့မှ ရတော့မှာ မဟုတ်ဘူးလို့လည်း တွေးခဲ့ဖူးတယ်။

တွေ့ပြန်ရင်လည်း လုံလုံလောက်လောက် ရှိမှာမဟုတ်ဘူးလို့ ထင်ခဲ့တယ်။ အဲဒီတုန်းက သူတွေးပုံက အဖြစ်ဘက်က မဟုတ်ဘူး။ အပျက် ဘက်ကချည်း ဖြစ်နေတယ်။

ဒါပေမဲ့ သူ သည်တစ်ခေါက် ထွက်လာက တည်းက သူ့အတွေးအခေါ်တွေ ပြောင်းလာခဲ့တယ်။

ဟိုတုန်းက ဒိန်ခဲရှိတဲ့နေရာမှာ ဒိန်ခဲရှိကိုရှိရ မယ်လို့ သူထင်ခဲ့တယ်။ အခြေအနေ ပြောင်းသွား တာကို သူလက်မခံခဲ့ဘူး။

ခုတော့ သူ သဘောပေါက်ပြီ။ မတည်မြဲတဲ့သဘောပဲ။ အပြောင်းအလဲဆို မျှော်လင့်ထားသည်ဖြစ်စေ၊ မထားသည်ဖြစ်စေ၊ ကြုံရမြဲဓမ္မတာ သဘောကို သူနားလည်ခဲ့ပြီ။

အပြောင်းအလဲနဲ့ကြုံလာရင် ခြေမကိုင်မိ၊ လက်မကိုင်မိဖြစ်တာဟာ မျှော်လင့်မထားလို့ပေါ့။ အပြောင်းအလဲကို ကိုယ်ကရှာမနေလို့ပေါ့။

သည်လို .. အပြောင်းအလဲဆိုတဲ့ သဘာဝတရားကို နားလည်လာတော့ သူ့အတွေးအခေါ်တွေ၊ အစွဲ အလမ်းတွေပါပြောင်းလာတယ်။

ခဏရပ်ပြီး သူရေးပြန်တယ်။

အတွေးအခေါ်ဟောင်းသည်

ဒိန်ခဲအသစ်ရှိရာသို့ သင့်အား

လမ်းညွှန်နိုင်လိမ့်မည်မဟုတ်

ရွှေပုံကျော်

ဟော ခရီးဆက်တယ်၊ ဝက်ပါလမ်းတစ် လျှောက် အသော့နှင်တယ်။ ဒိန်ခဲတော့ မတွေ့ သေးဘူး။ နောက်ထပ်တိုးလာတဲ့ သူ့လောကအမြင် တွေကိုပြန် တွေးတယ်။

အတွေးသစ်၊ အမြင်သစ်တို့ကြောင့် အမူအ ကျင့်အသစ်တွေ သူ့မှာ ဝင်လာတယ်ဆိုတာ သူသတိ ထားမိလာတယ်။

ဒိန်ခဲရိပ်သာ "စီ"ဆီသို့ တစ်ခေါက်ပြန်သွားခဲ့ တုန်းက အမူအကျင့်မျိုး သူ့မှာမရှိတော့ဘူး။

ယုံကြည်ချက် ပြောင်းလိုက်ပြီဆိုတာနဲ့ အပြုအမူ အနေအထိုင်ပါ ပြောင်းသွားတယ်ဆိုတာ သူသိပြီ။

အပြောင်းအလဲဆိုတာ လူကို ဒုက္ခပေးတယ်လို့ သင်ယုံချင်ယုံပါ။ အပြောင်းအလဲကို ဆန့်ကျင်လိုက ဆန့်ကျင်ပါ။ ဒါမှမဟုတ် ဒိန်ခဲသစ် ရှာပုံတော်ခရီးက အပြောင်း အလဲကို ကြိုဆိုဖို့ အထောက်အကူပြုတယ် လို့လည်း သင် ယုံကြည်နိုင်ပါတယ်။

အဲဒါတွေအားလုံးဟာ သင် ဘယ်လိုယုံကြည်မှု မျိုးကို ရွေးချယ်တယ်ဆိုတဲ့အပေါ်မှာတည်ပါတယ်။

နံရံပေါ်မှာ သူ ရေးပြန်ပြီ။

ဒိန်ခဲသစ်ကို ရှာတွေ့ပြီးစားသုံးနိုင်ပြီလို့

သင်မြင်လာတဲ့အချိန်ဟာ

သင့်ဘဝလမ်းကြောင်း တစ်ဆစ်ချိုးပြောင်းသွားတဲ့

အချိန်ပဲ

သူသာ “စီ”နေရာက စောစောခွာပြီး အပြောင်းအလဲကို လက်ခံမယ်ဆိုရင်၊ ခုအချိန်မှာ ဒီထက်အခြေအနေကောင်းမှာလို့ ဟော တစ်ယောက် ခုမှသဘောပေါက်ရှာတယ်လေ။

စိတ်ရော ရုပ်ပါ ဒါထက်ပိုပြီး အားကောင်းမောင်းသန်ဖြစ်နေမှာ၊ ဒိန်ခဲသစ်နောက်ကို လိုက်ရာမှာလည်း သတ္တိအပြည့်၊ အားမာန်အပြည့်နဲ့နေမှာ။

ပြီးတော့ ဒီအချိန်လောက်ဆို ဒိန်ခဲပုံကြီးထဲရောက်ချင်ရောက်နေမှာ။

တကယ့်အပြောင်းအလဲ ဖြစ်နေပါလျက် ငွတ်ငြင်းပြီး အချိန်တွေဖြုန်းခဲ့ခြင်းပါလား။

ဟောဟာ ရှိရှိသမျှ စိတ်ခွန်အားတွေကို စုစည်းလိုက်တယ်။ ပြီးမှပို၍ဝေးသော ဝင်္ကပါလမ်းတွေဆီ၊ မရောက်ဖူးသေးတဲ့ နေရာတွေဆီကို သွားဖို့ဆုံးဖြတ်လိုက်တယ်။

ပြေးရင်းလွှားရင်းနဲ့ ဒိန်ခဲတွေ ဟိုမှာနည်းနည်း၊ ဒီမှာ နည်းနည်း တွေ့တယ်။ ဒီတော့ သူ အားပြန်ပြည့်လာတယ်။ ယုံကြည်မှုလည်းပိုရလာတယ်ပေါ့။

လာရာလမ်းတစ်လျှောက်ကို ဟော ပြန်တွေးကြည့်တယ်။ နေရာပေါင်းများစွာမှာ သူ့အတွေးအမြင်တွေ ရေးထားခဲ့မိတဲ့အတွက် သူဝမ်းသာနေတယ်။

ဟမ် လိုက်လာရင် ဒီစာတန်းတွေဟာ သူ့အတွက် ဝက်ပါလမ်းညွှန်တွေ ဖြစ်လိမ့်မယ်လို့ သူယုံကြည်တယ်။ သူလိုက်လာဖြစ်ရင်ပေါ့လေ။

မိမိသွားတဲ့ လမ်းကြောင်းအတိုင်း သူလိုက်လာဖြစ်ပါစေလို့ပဲ ဟော ဆုတောင်းရတော့တာပေါ့။ အင်း ဒါဆိုရင်တော့ ငါ့လက်ရေးတွေ သူ တွေ့ကောင်းပါရဲ့။ ဖတ်မိကောင်းပါရဲ့။

တော်တော်ကြာကြာကတည်းက ရေးဖို့စိတ်ကူးရှိခဲ့တဲ့ စကားလုံးတွေကိုသူ ရေးချလိုက်ပြန်တယ်။

မသိမသာအပြောင်းအလဲကလေးများကို
စောစောစီးစီး သတိထားမိမယ်ဆိုရင် နောင်တွေ့ရမယ့်
ဧရာမအပြောင်းအလဲကြီးများကို ရင်ဆိုင်တဲ့နေရာမှာ
အထောက်အကူဖြစ်စေတယ်။

ခုတော့ ဟောတစ်ယောက် အတိတ်ကို အတိတ်မှာထားခဲ့ပြီး အနာဂတ်နဲ့ သဟဇာတဖြစ်ဖို့ပဲ အာရုံပြုတော့တယ်။

ဝက်ပါထဲမှာ ပိုလို့သန်၊ ပိုလို့မြန်တဲ့ ခြေလှမ်းများနဲ့ သူဆက်ပြေးနေတယ်။ တယ်မကြာပါဘူး၊ ထင်တဲ့ အတိုင်းဖြစ်လာတော့တာပါပဲ။

ဝက်ပါဟာ သူ့ကမ္ဘာလို ဖြစ်လာတယ်။ သူသွားနေကျခရီးလို ဖြစ်လာတယ်။ အဲဒီမှာ ပန်းတိုင်နဲ့ ဒိုင်းခနဲ သွားတိုးတော့တာပဲ။

"အင်န်" လို့ခေါ်တဲ့ ဒိန်ခဲရိပ်သာ အသစ်တစ်ခု ဘွားခနဲ သူ့ရှေ့မှာပေါ်လာတယ်လေ။

အထဲကို ဝင်သွားတော့ မြင်ရတဲ့ မြင်ကွင်းကြောင့် သူအထိတ်တလန့် ဖြစ်သွားတယ်။ ဒါလောက်များ ပြားတဲ့၊ ဒါလောက်မြင့်မားတဲ့ ဒိန်ခဲအပုံကြီးကို သူ့တစ် သက်တစ်ခါမှမတွေ့ဖူးခဲ့ဘူး။

အဲဒီအထဲက အမျိုးအစား တော်တော်များများကို သူမမြင်ဖူးဘူး၊ မကြားဖူးဘူး။

တကယ်လေလား၊ အိပ်မက်လား၊ ဝေဝေ ဝါးဝါးနဲ့ သူ တအံ့တသြ ဖြစ်နေတုန်းမှာ မိတ်ဟောင်း ဆွေဟောင်း နှစ်ယောက်ကို သွားတွေ့တယ်။ စနစ်ဖ်နဲ့ စကားရီးလေ။

စနစ်ဖ်က ဟောကို ခေါင်းညိတ်ပြီး ခရီးဦး ကြိုပြုတယ်။ စကားရီးက လက်သန်းကလေး ထောင်ပြ ပြီး နှုတ်ဆက်တယ်။

နှစ်ကောင်စလုံးဗိုက်ကလေးတွေရွဲလို့၊ ဒီနေရာ ကိုရောက်နေတာ တော်တော်ကြာပြီဆိုတာ ပြနေတာ လေ။

ဟောက သူတို့ကို ခပ်လောလောနှုတ်ဆက်ပြီး ငတ်ငတ်နဲ့ ဒိန်ခဲတွေကို တစ်ခုချင်း စိတ်ကြိုက် မြည်းတော့တာပဲ။ ပြီးမှဖိနပ်ချွတ်၊ အားကစား ဝတ်စုံတွေ ချွတ်ပြီး သေ သေသပ်သပ်ခေါက်တယ်။ ပြီးတော့ နံဘေးမှာပဲ ချထားတယ်။ အရေးအကြောင်း ဆိုရင် ချက်ချင်းကောက်စွပ် နိုင်တယ်လေ။

နောက်တော့ ဒိန်ခဲပုံကြီးအလယ်ကို ခုန်ဆင်းလိုက်တော့တာပါပဲ။ အဝအပြဲစားပြီးမှ လတ်လတ်ဆတ်ဆတ် ဒိန်ခဲတစ်တုံးကို မြှောက်ကိုင်ပြီး ကောင်းချီးပေး ဆုတောင်းလိုက်တယ်။

"အပြောင်းအလဲအတွက်ဟေ့"

ဒိန်ခဲ လတ်လတ်ဆတ်ဆတ်တွေ တစ်ဝကြီးစားနေရင်း ရရှိခဲ့တဲ့ အတွေ့အကြုံတွေအကြောင်း သူပြန်တွေးတယ်။

လတ်စသတ်တော့ လုံးဝမရှိတော့တဲ့ ဒိန်ခဲဟောင်းတွေကို အိပ်မက် ဆက်မက်နေတာဟာ အပြောင်းအလဲကို ... ငါကြောက်နေခဲ့တာပါလား ... ဆိုတာပြန်မြင်လာတယ်။

ဒါဆို ဘယ်အရာက သူ့ကို ပြောင်းလဲလိုက်တာလဲ။ ငတ်ပြီးသေမှာကို ကြောက်တာကြောင့်လား၊ "ဟော" ပြန်စဉ်းစားတယ်။

"ဟုတ်တယ်၊ အဲဒါလည်းပါလိမ့်မယ်"

ဒီတော့ သဘောပေါက်သွားပြီး သူ ရယ်တယ်လေ။ လမ်းလွဲနေတာကို သိလာလို့ ကိုယ့်ကိုယ်ကို ပြန်ရယ်ပြီးပြီးချင်း စပြောင်းလဲခဲ့တာပဲ။ အမြန်ဆုံး ပြောင်းလဲနိုင်ဖို့ နည်းလမ်းဟာ ကိုယ့်မိုက်မဲမှုအတွက် ကိုပြန်ရယ်ပစ်မိဖို့ပဲ။ အဲဒီလိုရယ်နိုင်ပြီဆိုရင် ချက်ချင်း အလုပ်စဖြစ် တော့တာပဲ။

ရှေ့ကိုတိုးပြီး ဆက်လှုပ်ရှားဖို့ "စနစ်ဖ" နဲ့ "စကားရီး" တို့ဆီကလည်း သူသင်ခန်းစာတွေ ရလိုက်တယ်။

သူတို့က ဘဝကို ရိုးရိုးကလေး တွေးတယ်။ လိုတာထက်ပိုပြီးမစဉ်းစားဘူး။ ရှုပ်ထွေးအောင် မလုပ်ဘူး။

ဒိန်ခဲရိပ်သာ "စီ"မှာ အခြေအနေတွေပြောင်းလာတော့၊ ဒိန်ခဲတွေရွှေ့သွားတော့ ဒိန်ခဲနဲ့အတူ သူတို့လိုက်ပြောင်းသွားတာပဲ။ ဒါကို သူဘယ်တော့မှ မမေ့တော့ဘူး။

အဲဒီမှာ ဟောဟာ ကြွက်ကလေးတွေထက် လူကလေးတွေက ပိုပြီးသာကြောင်းပြဖို့ သူ့ဦးနှောက်ကို အသုံးချတော့တာပဲ။

အတိတ်ကအမှားတွေကို သူ ပြန်စဉ်းစားတယ်၊ အနာဂတ်အတွက် စီမံကိန်းတွေချတယ်၊ အပြောင်းအလဲနဲ့ နှစ်ပါးသွားဖို့၊ သင်ကြားလေ့လာလို့ ရတယ်ဆိုတာ သူသိပြီလေ။

အရာတိုင်းကို ရိုးရိုးရှင်းရှင်းကလေး တွေးဖို့လိုတယ်ဆိုတာပိုပြီး သဘောပေါက်ထားရမယ်၊ အလျှော့အတင်းလုပ်ရမယ်၊ ပြီးတော့ မြန်မြန်ဆန်ဆန် လှုပ်ရှားရမယ်။

လိုတာထက်ပိုပြီး ရှုပ်ထွေးအောင် စဉ်းစားဖို့မလိုဘူး၊ အကြောက်တရားတွေနဲ့ ကိုယ့်ကိုယ်ကို အမြင်မကြည်လင်အောင် မလုပ်ရဘူး။

အပြောင်းအလဲကြီးတွေရောက်လာရင် အဆင်သင့်ဖြစ်နေအောင် အပြောင်းအလဲ ကလေးတွေကို သတိရှိနေရမယ်။

အလျှော့အတင်းလုပ်ဖို့လည်း မြန်ဆန်ရမယ်။ အချိန်မှီ မလုပ်နိုင်ရင် နောက်လုံးဝမလုပ်ဖြစ်တာမျိုးနဲ့ ကြုံနိုင်တယ်။

အပြောင်းအလဲ မလုပ်ရဲအောင် ချုပ်တည်း ထားတဲ့ တရားခံဟာ မိမိကိုယ်တိုင်ပဲ။ ဒါကြောင့် ကိုယ်ကိုယ်တိုင်က ပြောင်းလဲမှရမယ်။ အဓိကအကျဆုံး အကြောင်းအရာဟာ သင်အသိအမှတ်ပြုပြု၊ မပြုပြု၊ တစ်နေရာရာမှာ ဒိန်ခဲအသစ် ရှိနေတယ်ဆိုတာပဲ။

အကြောက်တရားကို မောင်းထုတ်ပစ်နိုင်ပြီး စွန့်စားခန်းဖွင့်ပြီဆိုတာနဲ့ သင် ဆုလာဘ်ကို ခံစား နေရမှာပဲ။ ဒါပေမဲ့ ကြောက်သင့်တဲ့ ကိစ္စကျရင် ကြောက်ရမယ်ဆိုတာလည်း သူသိထားတယ်။ တကယ့် အန္တရာယ်ကို ရှောင်ကွင်းနိုင်မယ့် ကြောက်ခြင်းမျိုးလေ။

ဒါပေမဲ့ များသောအားဖြင့် သူတွေးကြောက်ခဲ့ တာတွေဟာ အဓိပ္ပာယ်မရှိတာဆိုတာ သူ နောက်မှ သဘောပေါက်တာ၊ အဲဒါကြောင့် သူ အချိန်မှီ အပြောင်း အလဲ မလုပ်နိုင်ခဲ့တာပေါ့။

အဲဒီတုန်းက အပြောင်းအလဲဆိုတာကြီးကို သူ လုံးဝလက်မခံဘူး။ ကံကောင်းထောက်မလို့ အပြောင်း အလဲဟာ သူ့ကိုယ်ထဲကို ခေါင်းမြီးခြုံဝင်လာပြီး ပိုကောင်းတဲ့ ဒိန်ခဲဆီကို လမ်းညွှန်ပေးခဲ့တာ။ တစ်ပြိုင် တည်းမှာ သူ့ကိုယ်ထဲမှာရှိတဲ့ အရည်အချင်းကောင်း တွေတောင် ပေါ်လာသေးတယ်။

တိုးလာတဲ့ဗဟုသုတတွေ ပြန်စဉ်းစားရင် သူငယ်ချင်းဟာမ်အကြောင်းပါ ခေါင်းထဲဝင်လာတယ်။

ဒိန်ခဲရိပ်သာ "စီ" မှာပဲ လမ်းတစ်လျှောက် သူ ရေးခဲ့တဲ့ နီတိတွေကို သူဖတ်မှ ဖတ်မိပါ့မလား။

ဟာမ် တစ်ယောက်၊ စိတ်လွတ်လက်လွတ်နဲ့ ထွက်ကော လာဖြစ်ပါ့မလား။ ဝက်ပါထဲဝင်လာပြီး သူ ဘဝ ဆက်လက်ရှင်သန်ရေးဟာ ဘာဆိုတာ သူ ရှာဖွေ တွေ့ရှိပါ့မလားမသိ။

သူ့ဆီပြန်သွားရရင် ကောင်းမလား တွေးမိပြန် တယ်။ ဟောက လမ်းကို ကောင်းကောင်း ကျွမ်းနေ ပြီလေ။ တွေ့ရင် ဒွိဟာဖြစ်နေတဲ့သူ့ကို တရားပြနိုင်

ကောင်းပါရဲ့။ စည်းရုံးနိုင်ကောင်းပါရဲ့။ ဒါပေမဲ့ တစ်ခါ ကြိုးစားပြီးပြီဆိုတော့ ပြန်သတိရလာတယ်။

တကယ်တော့ ဟမ် ဟာ "အတ္တာဟိ အတ္တနော နာထော" ကိုယ့်ကိုယ်ကို အားကိုးရမှာ၊ ဘယ်သူကမှ သူ့အတွက် လုပ်ပေးလို့ မရဘူး။ အတင်းတိုက်တွန်းလို့ လည်းမရဘူး။

ပြောင်းလဲခြင်းရဲ့ အကျိုးအမြတ်ကို ကိုယ်တိုင် ရှာရမှာ။

သူ့အတွက် သဲလွန်စတွေ ထားခဲ့ပြီးပြီပဲ။ နံရံပေါ် ကစာတမ်းတွေ ဖတ်မိရင် လမ်းမှန်ကိုတွေ့ရ မှာပေါ့။

ဒိန်ခဲရိပ်သာ "အင်န်" ရဲ့ အကျယ်ပြန့်ဆုံးနံရံ တစ်နေရာမှာ မှတ်သားခဲ့သမျှ အတွေ့အကြုံတွေ စီပြီးရေးချပြန်တယ်။ ပြီးတော့ စာတမ်းတွေပေါ်မှာ ရောမ ဒိန်ခဲပုံကြီး ဆွဲလိုက်တယ်။ ပြီးမှ သူ့ဘဝ အမြင်တွေကို ကြည့်ပြီး ပြုံးနေတယ်လေ။

အပြောင်းအလဲဆိုတာ ဖြစ်မြဲဓမ္မတာပဲ
အဲဒီအပြောင်းအလဲက ဒိန်ခဲကို
အမြဲတမ်းနေရာရွှေ့ထားတယ်

အပြောင်းအလဲကိုကြိုတွေးထားပါ
ဒိန်ခဲနေရာရွှေ့ထားမယ့်အတွက် အသင့်ပြင်ထားပါ

အပြောင်းအလဲကို သတိနဲ့စောင့်နေပါ
ဒိန်ခဲကိုမကြာခဏနမ်းကြည့်ပါ မှိုနံ့ကို သတိပြုပါ

အမြန်ဆုံးလိုက်လျောညီထွေပြောင်းလဲပါ
ဒိန်ခဲဟောင်းကိုမြန်မြန်သံယောဇဉ်ဖြတ်နိုင်လေ
ဒိန်ခဲအသစ်မြန်မြန်ရလွယ်လေပဲ

အပြောင်းအလဲ ဒိန်ခဲနဲ့အတူလိုက်ပြောင်းပါ

အပြောင်းအလဲကို ချစ်မြတ်နိုးပါ

စွန့်စားခန်းကို တန်ဖိုးထားပါ ဒိန်ခဲအသစ်ကို

အရသာရှိရှိ သုံးဆောင်ပါ

နောက်တစ်ကြိမ်အမြန်ပြောင်းလဲဖို့

အသင့်ဖြစ်နေပါစေ၊ပြီးတော့

နောက်ထပ် ပျော်ပျော်ပါးပါးစားသုံးပါ

သူတို့ကဒိန်ခဲကို

အမြဲတမ်းဆက်ပြီးနေရာရွှေ့နေလိမ့်မယ်

ဒိန်ခဲရိပ်သာ "စီ"မှ ဟမ်နဲ့ ခွဲခွာတဲ့ အချိန်အတိုင်းအတာကို ဟော ပြန်စဉ်းစားလိုက်တယ်။ ကြာခဲ့ပြီပဲ။ အဝေးကြီးကို ရောက်ခဲ့ပြီပေါ့။ ဒါပေမဲ့ ဒီအခြေအနေမှာပဲ ငြိမ်ငြိမ်ကလေး နပ်နေလိုက်ရင် ဟမ်ရဲ့ ဘဝမျိုးကို လွယ်လွယ်ကလေး . ပြန်ရောက် သွားနိုင်တယ်ဆိုတာလည်း ဟောတစ်ယောက် သဘောပေါက်တယ်။

ဒါကြောင့် ဒိန်ခဲရိပ်သာ "အင်န်" ကို နေ့တိုင်း စစ် ဆေးတယ်။ ဒိန်ခဲအခြေအနေကို အမြဲတမ်းလေ့လာတယ်။ အထိတ်တလန့်ဖြစ်စရာတွေနဲ့ မမျှော်လင့်တဲ့ အပြောင်းအလဲတွေ ဖြစ်လာမှာကို ရှောင်နိုင်အောင် ဘာမ ဆိုသူလုပ်မှာပဲ။

ဒိန်ခဲတွေကတော့ တောင်ပုံရာပုံ ရှိနေတုန်းပဲ။ ဒါပေမဲ့ ဝက်ပါထဲထွက်ပြီး နေ့တိုင်းလေ့လာတယ်။ နေရာ သစ်တွေကို လျှောက်သွားတယ်။ ပတ်ဝန်းကျင်မှာ ဘာတွေဖြစ်နေတယ်ဆိုတာ မျက်ခြည်ပြတ်မခံတော့ဘူး။

ဒူးနှံ့ပြီး ဇိမ်ခံနေတာထက် လှုပ်လှုပ်ရှားရှား သွားလာစူးစမ်းနေတာက ပိုပြီး ဘဝလုံခြုံမှုရှိတယ်ဆို တာ သူ သိလာပြီလေ။

အဲဒီမှာ ခြေသံလိုလို လှုပ်ရှားသံတစ်ခု ဝက်ပါ ထဲဘက်က သူကြားလိုက်တယ်။ တဖြည်းဖြည်း အသံပို ကျယ်လာတယ်။ သေချာပြီ။ တစ်ယောက်ယောက် လာနေပြီ။

ဟမ် ရောက်လာတာ ဖြစ်နိုင်ပါ့မလား။ ဟော ဟိုထောင့်က သူ ဘွားခနဲပေါ်လာလေမလား။

တိုတို တုတ်တုတ် ဆုတောင်းလိုက်ပြီး ဟောက သူငယ်ချင်းကို ရင်တမမ စောင့်နေတယ်။ ဒီလို ဆုတောင်းပြီး စောင့်ခဲ့ ပေါင်းလည်းများပါပြီလေ။

အင်း .. နောက်ဆုံးတော့ သူငယ်ချင်း ဟမ် တစ်ယောက်ရောက်လာဖို့...

# နေ့လယ်စာစားအပြီး ဆွေးနွေးခြင်း

ထမင်းစားပြီးချိန် ခေါင်းလောင်းထိုးသံနှင့် အတူ ခရစ်၏ ဇာတ်လမ်း ဆုံးသွားသည်။

မီလာနီ စကားစသည်။

"နေဦးဟ။ ငါ့စိတ်ထဲမှာ သိပ်မရှင်းသလိုပဲ။ တို့ ထပ်ဆုံကြရအောင်လား။ ရှာကွီဆိုင်မှာတွေ့ကြမယ် လေ"

ဂျိုရှီက စက္ကူလက်သုတ်ပဝါကလေးကို လုံးပြီး အမှိုက်ပုံးထဲပစ်ထည့်လိုက်သည်။

"အေး..ငါသဘောတူတယ်"

"ငါလည်းလာခဲ့မယ်"

ကယ်ရီကလည်း...

"အေး..ငါလာခဲ့မယ်"

ကားလ်မှလွဲပြီးအားလုံး သဘောတူကြသည်။

ကားလ်က ကယ်ရီကိုကြည့်ပြီး ..

“ငါတော့ မလာနိုင်ဘူး.. ဒီည ငါကြည့်ချင်တဲ့ ကားတစ်ကားလာမှာ”

ကယ်ရီကနောက်သည်။

“နင်နဲ့တီဗီနဲ့ ပူးချည်ထားဖို့ကောင်းတယ်”

ပြောပြောဆိုဆို ကယ်ရီထတော့ အားလုံးထပြီး စားသောက်ဆိုင်ထဲမှ ထွက်လာခဲ့ကာ စာသင်ခန်း အသီး သီးဆီသို့ ပြန်ဝင်ခဲ့ကြသည်။

ထိုညတွင် ရှာကီ၏ ပစ်ဇာဆိုင်သို့ ခရစ် ပထမဆုံးရောက်သည်။ ဆိုင်နောက်ပိုင်းရှိ နွေးနွေးထွေးထွေး အခန်းကျယ်ကြီးကို ယူလိုက်သည်။ သူတို့အားလုံးအတွက်အနေတော်အခန်းကြီး။

အားလုံးစုံတော့ ထုံးစံအတိုင်း ပစ်ဇာပေါ် ဘာလွှမ်းမလဲဆိုသည့် ပြဿနာပေါ်သည်။ အကြိုက်ချင်းက ဘယ်တော့မှ ညှိမရ။ သူတို့အုပ်စု ရောက်လာလျှင် စားပွဲထိုးအမျိုးသမီးကလေးဦးနှောက်ခြောက်ရစမြဲ။

ဤ၌တွင် အင်နာကဝင်ပြီး အဆုံးအဖြတ်ပေး လိုက်သည်။ "အားလုံး ဒိန်ခဲနဲ့ဖုံးလိုက်ပါ။ ဒိန်ခဲက လတ်လတ်ဆတ်ဆတ် အသစ်ဖြစ်ပါစေနော်။ မနေ့ကဒိန်ခဲ မဖြစ်ပါစေနဲ့။ ကျေးဇူးပဲ"

အားလုံး ဝိုင်းရယ်ကြသည်။ စားပွဲထိုးမကလေး ခေါင်းရမ်းပြီးထွက်သွားသည်။

မီလာနီက စသည်။

"ငါ တစ်နေ့လုံး သည့်ဇာတ်လမ်းကို စဉ်းစားနေတာ။ နင်တို့တွေ ဘယ်သူနဲ့တူသလဲစဉ်းစားပြီးပြီလား။ နင် တို့ ဘယ်သူလဲ။ စနစ်ဖ်လား၊ စကားရီးလား၊ ဟမ်လား၊ ဟောလား။"

ပီတာကဝင်မေးသည်။

"တစ်ယောက်တည်းနဲ့ တူရမှာလား။ တစ်ခါတစ်ခါမှာ ငါက စကားရီးလို လုပ်မိတယ်။ တစ်ခါတလေကျတော့လည်း ငါ့ကိုယ်ငါ ဟမ်နဲ့တူတယ်ထင်တယ်။ ဘာ တွေမှန်းမသိပါဘူးဟာ"

“ဟုတ်တယ်။ ငါ့အထင်ကတော့လေ တို့တွေဟာ ဟိုဟာနဲ့တူလိုက် ဒီဟာနဲ့တူလိုက်ဖြစ်နေကြတယ်”

အင်နာက ပြောပြီး အကူအညီတောင်းသည့်အနေဖြင့် ခရစ်ကိုလှမ်းကြည့်လိုက်သည်။

ခရစ်က...

“ငါ့ကို မကြည့်နဲ့လေ။ “ဒိန်ခဲ”ဝတ္ထုထဲက နင်ဘာရသလဲဆိုတာ နင့်အပေါ်မှာလုံးဝမူတည်တယ်”

ကယ်ရီ ဝင်ဆွေးနွေးသည်။

“ဒိန်ခဲဟာ နင်ဖြစ်စေချင်တာ ... ဘာပဲဖြစ်ဖြစ်ဖြစ်နိုင်တဲ့အရာပဲ။ တစ်နည်းပြောရရင် နင်နဲ့တန်တဲ့အရာ တစ်ခုခုကို နင်ရမှာပဲ။ ဝင်္ကပါ ကတော့နင်ရှာဖွေနေတဲ့ နေရာတစ်ခုခုလေ။ ကျောင်းဖြစ်ချင်ဖြစ်မယ်။ အိမ်ဖြစ်ချင်ဖြစ် မယ်ပေါ့”

ပီတာက...

“ကောင်းပြီ။ ငါ နားလည်ပြီ။ ဒိန်ခဲ၊ ဝက်ပေါ၊ ကြွက်၊ ဘာညာဘာညာပေါ့။ ဒါပေမဲ့ အဲဒီ “ဒိန်ခဲ” ဝတ္ထုကို ငါတို့ ဘယ်လိုအသုံးချမှာလဲ။ ငါ့ကို ဥပမာ တစ်မျိုးမျိုးနဲ့ နင်တို့အထဲက တစ်ယောက်ယောက် ပြောပြနိုင်မလား”

အားလုံး ငြိမ်နေကြသဖြင့် ခရစ်က ဝင်ပြီး တာဝန်ယူသည်။

“အေး… ငါ ပြောပြနိုင်ပါတယ်။ ဘတ်စကတ်ဘောကို အလယ်တန်းမှာကတည်းက ငါကစားခဲ့တယ်ဆိုတာ မင်းတို့အားလုံးသိတယ်နော်။ ငါ ဘယ်တော့မှ နံပါတ်တစ်မဖြစ်ခဲ့ဘူး။ ဒါပေမဲ့ ငါမဆိုးပါဘူး။ အထက်တန်းရောက်တော့ အသင်းတစ်သင်းမှာ ငါဝင်ကစားတယ်။ ဒါပေမဲ့ အလယ်တန်းတုန်းက အတိုင်း အလယ်အလတ် အဆင့်မှာပဲ တန့်နေတယ်။ တစ်သင်းလုံးက ငါ့ထက်အရပ် မြင့်ကြတာကိုးကွ။ အဲဒီမှာ ငါ တစ်ခုစဉ်းစားမိလာတာ။ သဘောပေါက်တော့လည်း ချက်ချင်းကြီးကွ။ မင်းတို့အား လုံးငါ့ထက် အရပ်မြင့်ကြ

တယ်လေ။ ဂျိုရှ်အပါအဝင်နော်။ မင်းတို့တွေက အမွေးအမှင်တွေ ရိပ်နေတဲ့အချိန်မှာ ငါက ခုနစ်တန်းက အင်္ကျီကိုဝတ်နေရတုန်း။

"ငါ့ပတ်ဝန်းကျင်မှာ အရာအားလုံး ပြောင်းလဲနေတယ်။ အဲဒီအပြောင်းအလဲတွေကိုကြည့်ပြီး ငါ့မှာ ဆူး တစ်ချောင်းပြီး တစ်ချောင်း ပေါက်လာတယ်။ အဲဒီ့အခါမှာ ငါဟာ ဟမ်လုပ်သလိုတွေ လျှောက်လုပ်မိတော့တယ်"

"မတရားဘူး၊ မဖြစ်သင့်ဘူး" ဆိုတာမျိုးတွေ တစ်ချိန်လုံးလျှောက်ပြောနေမိတယ်။

ခရစ်က ပီတာနဲ့ဂျိုရှ်ကို လှမ်းကြည့်ပြီး ဝန်ခံလိုက်သည်။

"မင်းတို့ကောင်တွေက ကောင်မလေးတွေနဲ့ ချိန်းတွေ့လိုက်၊ တွဲကလိုက် လုပ်နေချိန်မှာ ငါက အခန်းထဲ မှာငုတ်တုတ်ထိုင်နေရတယ်"

"အဲဒီတော့ ..."

မီလာနီကဝင်ထောက်ပေးသည်။

"အဲဒီ့တော့ အဲ .. အဲဒီ့အချိန်မှာ ငါ့ဦးလေးဆီက ဒိန်ခဲဇာတ်လမ်းကိုကြားရတာပဲ။ အဲဒီမှာ ငါ့အယူအဆတွေ ပြောင်းသွားတယ်။ ပတ်ဝန်းကျင်မှာ ဘာတွေဖြစ်နေတယ်ဆိုတာ ငါသတိထားကြည့်တယ်"

ပြောရင်း ခရစ်က ကယ်ရီကို လှမ်းကြည့်သည်။ ကယ်ရီက အရပ်မြင့်မြင့်။ မိန်းကလေး ဘတ်စကတ်ဘောအသင်း၏ ကြယ်တစ်ပွင့်။ ပြီးတော့ စကားဆက်သည်။

"ငါ့အတွက် ရှင်းနေပြီလေ။ ငါ ဘယ်တော့မှ NBA လက်ရွေးစင်ဖြစ်မှာမဟုတ်ဘူး"

အားလုံးဝိုင်းရယ်ကြပြန်သည်။

"ဒါနဲ့ ငါ ဟောလိုလုပ်ဖို့ ဆုံးဖြတ်လိုက်တယ်။ ပြီးတော့အားလုံးကို ရယ်မောပစ်လိုက်တယ်။ နောက်ပိုင်းမှာ ဘာမှအလေးအနက် မထားတော့ဘူး။ ငါ အရပ်ပုတဲ့ကိစ္စကို ရေးကြီးခွင်ကျယ်လုပ်နေတဲ့ အချိန်တွေဟာ အလကား အဟောသိကံအချိန်တွေပဲ မဟုတ်

ဘူးလား။ အဲဒီ့မှာ ဝက်ပါနံ့ရပေါ်က လက်ရေးကို ငါသွား သတိရတယ်။ ဒိန်ခဲ ဟောင်းရှိတဲ့နေရာကို ငါပြန်မသွား နိုင်တော့ဘူးလေ။ ခုနစ်တန်းတုန်းက ဘတ်စကတ် ဘောချန်ပီယံဖြစ်ဖို့ စိတ်ကူးဆီကိုလေ”

“အဲဒီ့တော့ နင် ဘာဆက်လုပ်သလဲ”

မီလာနီကထပ်မေးသည်။

“အဲဒီ့တော့ ငါ ဒိန်ခဲအသစ် ရှာတာပေါ့။ ဝက်ပါ ထဲကို ဆက်သွားတာပေါ့။ ဒီလိုနဲ့ဒီနေရာကို ငါရောက် လာ တာလေ။ ငါ ခုဘောလုံး ကန်နေပြီလေ။ ငါ ဒီလောက် ကစားနိုင်မယ်လို့ လုံးဝမထင်ခဲ့ဘူး။ အဲဒီ့ ဒိန်ခဲဇာတ်လမ်း ကိုငါစောစောသိရင်သိပ်ကောင်းမှာ”

ပီတာကအတွေးနက်သွားပုံဖြင့်…

“ခဏလေး၊ မင်းပြောပုံက အဲဒါတွေအားလုံး သည် “ဒိန်ခဲ”ဝတ္ထုထဲကရလိုက်တယ်ပေါ့။ ဟုတ်လား”

ခရစ်ကပြန်ဖြေသည်။

“ဒါပေမဲ့ ငါ ယူတတ်လို့ရတာ။ သည်ဇာတ်လမ်းကိုကြားပြီးတော့ အရာဝတ္ထုတွေကို ငါ တစ်မျိုးကြည့်တတ် လာတယ်။ မင်းတို့နားလည်နိုင်မလား မသိဘူး”

မီလာနီကစဆွေးနွေးသည်။

“နင့်ဒိန်ခဲတွေ အရွှေ့ခံလိုက်ရပြီးမှ နင်ဒီဇာတ်လမ်းကို ကြားရတယ်။ အဲဒီ့မှာ နင် ဟော လုပ်သလိုလိုက်လုပ်တယ်။ အဲဒီတော့မှနင်တက်ကြွလာတယ်။ ပြောင်းလဲသွားတယ်။ သည်ဇာတ်လမ်းကို ကြားပြီးတော့ ငါ့ကိုထားသွားတဲ့ ငါ့အဖေကို သွားသတိရတယ်ကွ”

အားလုံး အံ့သြသင့်သွားကြသည်။ . ဂျိုရှ်က ဘယ်တော့မှ သူ့အဖေအကြောင်းပြောလေ့မရှိ။

“ငါက စနစ်ဖ် မဟုတ်တာတော့ သေချာတယ်ကွ။ ဘာတွေဖြစ်နေတယ်ဆိုတာ ငါအနံ့မခံတတ်ဘူးလေ။ ဘာဖြစ်လာမယ်ဆိုတာလဲ ငါကြိုမတွေးတတ်ဘူး”

ဂျိုရှ် ခဏတွေပြီး စဉ်းစားနေတယ်။ ပြီးမှ ဆက်ပြောသည်။

"ပြီးတော့ ငါ စကားရီးလည်း မဟုတ်ဘူး။ ဘာပြုလဲဆိုတော့ ငါ နောက်ပိုင်း ဘယ်လို ဆက်လှုပ်ရှားရမှန်း မသိဘူးလေ။ ငါက ဟမ် ပဲ။ ခုလည်း ဟမ် အတိုင်းပဲ။ ငါ တော့အဲဒီလိုပဲထင်တယ်"

အချိုရည် တစ်ကျိုက်သောက်ပြီး မျက်နှာအောက်ချကာ သူ စကားဆက်သည်။

"ဒိန်ခဲ ပြန်ရောက်လာမလားဆိုပြီး စောင့်နေတာမျိုးပေါ့ကွာ"

ကယ်ရီက သူငယ်ချင်း၏ပခုံးကို သိုင်းဖက်လိုက်ပြီး..

"အပြောင်းအလဲလုပ်ဖို့ နောက်ကျတယ်လို့ မရှိနိုင်ပါဘူးဟာ"

မီလာနီကဝင်ထောက်ခံသည်။

“ဟောနဲ့တူတာနဲ့ နင့်အဖေသစ်ကို ရယ်ရယ် မောမော လိုက်ရှာရင်း လမ်းပေါ်မှာ ဟိုဝင်တိုက် ဒီဝင်တိုက် ဖြစ်ဖို့မလိုပါဘူး”

အင်နာက ဝင်ထောက်သည်။

“နင့်အဖေ အိမ်က ထွက်မသွားခင်တုန်းက နင်တို့မိသားစု ဒီအတိုင်းရပ်တည်ခဲ့ကြတယ် မဟုတ်လား။ အဲဒါ ဒိန်ခဲဟောင်း နေရာရွှေ့သွားတာနဲ့ အတူတူပေါ့။ သည်လိုပဲ ဆက်သွားနေတာဟာ ဒိန်ခဲသစ်ကိုရှာတာနဲ့ အတူတူပေါ့”

ဂျိုရှ်က….

“ဘာလဲ ဒိန်ခဲသစ်ဆိုတာ”

မီလာနီလည်း အဖေနှင့် အမေ ကွဲနေသည့် မိန်းကလေးပဲ။ သူကရှင်းပြသည်။

“ငါ့အထင်တော့ ဒိန်ခဲသစ်ဆိုတာ အခြေအနေကို ရှုထောင့်သစ်က ကြည့်ပြီး လမ်းရိုးဟောင်းက ခွဲထွက်လှုပ်ရှားတာပဲလို့ ထင်တယ်။ ဘာနဲ့ တူသလဲ

ဆိုရင် နင့်အဖေကို ဒေါပွနေတာတွေ၊ သူထွက်သွားတဲ့ အတွက် ဝမ်းနည်းနေတာတွေကို မေ့ပစ်လိုက်တာမျိုး ပေါ့။ ပြီးတော့ ဘာမှ ပြင်လို့မရတာတွေကို မေ့ပစ် လိုက်တာလိုမျိုးပေါ့"

ကယ်ရီကဖြည့်ပြောသည်။

"ဟုတ်တယ်။ သူထွက်သွားတာ နင့်အပြစ်မှ မဟုတ်တာ။ နင့်တာဝန်က နင့်ဘဝနင် ဆက်ရုန်း ကန်ဖို့ပဲ။ ခုချိန်ကစပြီး နင်ခြေလှမ်းသစ်တွေနဲ့ လှုပ်ရှား ရမယ်။ ပြီး တော့လက်ရှိဘဝကိုကျေနပ်နေရမယ်"

အင်နာက ဂျိုရှ်၏ခြေထောက်ကို စားပွဲအောက် မှ လှမ်းထိုးလိုက်ပြီး ..

"ဒိန်ခဲနဲ့အတူ လိုက်ရွှေ့ပေါ့ဟ့"

ဂျိုရှ်ပြုံးလာတာကို အားလုံးတွေ့လိုက်ရသည်။

"ငါ့အဖေ ထွက်သွားတဲ့အကြောင်းကို တစ်ချိန် လုံး ငါတွေးနေခဲ့တယ်။ သူ အဲဒီလိုမလုပ်ရင် သိပ်

ကောင်းမှာပဲပေါ့။ အပြောင်းအလဲကို စိတ်မကူးဘဲ အလကား အချိန်တွေကုန်ခဲ့တယ်”

ဂျိုရှ်တစ်ယောက် အချိန်ယူစဉ်းစားဖို့ လိုတယ် ဆိုတာ ခရစ် သတိထားမိလိုက်သည်။ ထို့ကြောင့် သူက အကြောင်းအရာပြောင်းပစ်လိုက် သည်။

“ငါတို့ ဘောလုံးအသင်းကကောင်တွေ တော်တော်များများ ဒိန်ခဲဇာတ်လမ်းကို သိနေကြပြီကွ။ တချို့လည်း “အလကားဇာတ်လမ်းပါကွာ။ ဘာမှ အဓိပ္ပာယ် မရှိပါဘူး”လို့ပြောကြတယ်”

“ဒါပေမဲ့ အကောင်းဆုံး အားကစားသမားတွေ ကတော့ သူတို့အတွက် “ဒိန်ခဲ” အသုံးဝင်တဲ့အကြောင်း ပြောကြတယ်။ အသင်းမှာ သုံးမရတဲ့ကောင်တွေကို လဲ ပစ်တယ်”

“တို့ကို လျှို့ဝှက် ဘာသာစကား တစ်မျိုး သင်ပေးသလိုပဲလို့လည်း ပြောကြတယ်။ ကစားနေရင်း တွန့်ဆုတ် တွန့်ဆုတ်လုပ်နေတဲ့ ကောင်တွေကို

ဝိုင်းအော်ကြတယ်။ “ဟော့.. လုပ်ပါကွ။ ဟမ်လို လုပ်မနေစမ်းပါနဲ့” ပေါ့”

ကယ်ရီက....

“အေး ... ငါတော့ ကြိုက်သွားပြီ။ ငါတို့ မိန်းကလေးအသင်းကိုလည်း အဲဒီ့အတိုင်းလုပ်ရမယ်။ ဒါပေမဲ့ ငါ့မှာ မတင်မကျကြီးဖြစ်နေတာ တစ်ခုရှိတယ်ဟ။ “အပြောင်းအလဲကို ကြောက်နေရင် ဘယ့်နှယ့် လုပ်မလဲ” ဆို တဲ့ပြဿနာပဲ”

ပီတာက ရင်ဖွင့်သည်။

“ခုလောက်ဆို ငါ စင်ပေါ်ရောက်နေရမှာကွ။ ငါတို့ တီးဝိုင်းက ခုတော်တော်ကောင်းလာနေပြီ”

ပီတာက သူတို့တီးဝိုင်းတွင် ရံဖန်ရံခါ ဂီတာဘင် ခေါက်တတ်သည်လေ။

“ငါသာ မကြောက်တတ်ရင် လုစ်ကို အပြင် ခေါ်ဖို့ပြောတာကြာပြီ”

မီလာနီက သူကြွေနေတာ ကြာပြီဖြစ်သည့် ကောင်လေးကို ရည်ညွှန်း ပြောခြင်းဖြစ်သည်။ တစ်ဆက် တည်းအင်နာ့ဘက်လှည့်ပြီးမေးသည်။

"နင်ကကော ဘယ်လိုလဲ"

အင်နာ ခဏတွေစဉ်းစားသည်။ . ပြီးမှ ဝန်ခံစကားဆိုသည်။

"ငါလည်း ဝက်ပါထဲ ရောက်နေပြီလား မသိဘူး။ ငါခု ကောလိပ်တက်ဖို့ ဝင်ခွင့်ပုံစံတွေ ဖြည့်နေရတယ်"

"ဟယ် ... နင် ခုမှဖြည့်တယ် ဟုတ်လား။ မပြီး သေးဘူးလား"

မီလာနီတအံ့တသြမေးလိုက်ခြင်းဖြစ်သည်။

အင်နာက ပခုံးတွန့်ပြီး....

"မပြီးသေးဘူး။ ငါတက္ကသိုလ်တက်ဖို့ ချီတုံချတုံ ဖြစ်နေတယ်။ ဘာပြုလို့လဲဆိုတော့ ငါဘာဖြစ်ချင်မှန်း ငါ့ ကိုယ်ငါမသေချာလို့ပဲ။ ပြီးတော့ နင်တို့နဲ့

လည်း ငါ ခွဲမသွားချင်ဘူး။ တို့တွေဟာ တကယ် ချစ်ကြတဲ့ သူငယ်ချင်းတွေ လေ။

သည်တော့မှ ခရစ်က ဝင်ပြီးနှစ်သိမ့်သည်။

"နင်တို့နဲ့ခွဲသွားတာမှ မဟုတ်ဘဲ အင်နာရယ်။ ဘယ်လိုအပြောင်းအလဲတွေ ဖြစ်လာဖြစ်လာတို့ သူငယ်ချင်းတွေလက်တွဲမဖြုတ်စတမ်းလေ"

မီလာနီကထောက်ခံသည်။

"ဒါပေါ့။ တစ်ခုတော့ရှိတယ်။ တို့တွေမှာ အပြောင်းအလဲတွေ ဖြစ်လာရင်တော့ ဒိန်ခဲနဲ့အတူလိုက်ရွှေ့ရမှာပဲ"

အင်နာဝန်ခံသည်။

"ဟုတ်တယ်။ ဘွဲ့ရပြီး ဒိန်ခဲရွှေ့မသွားခင် ငါ့ကိုယ်ငါ ဟမ်ကနေ ဟောဖြစ်အောင်လုပ်ရမယ်။ ဒါပေမဲ့ ဘယ်လိုလုပ်ရမယ်ဆိုတာငါမသိဘဲဖြစ်နေတယ်ဟ"

ဤတွင် ကယ်ရီဝင်ပြီးအကြံပေးသည်။

“ဒီလိုလုပ်ပေါ့။ နင့်မျက်စိထဲမှာ လတ်လတ်ဆတ်ဆတ် ဒိန်ခဲအသစ်ကို မြင်လာအောင်ရှုလေ။ ဟမ်လုပ်သလိုမျိုးလေ”

မီလာနီကအားလုံးကိုဝေ့ကြည့်ပြီး…

“အဲဒါကြောင့် ဝက်ပါထဲကို ဟမ် ထွက်သွားတာမဟုတ်လား။ အာရုံမှာ ဒိန်ခဲအသစ်တွေ မြင်လာပြီးတောလေ။ ဒါဟာပိုကောင်းတဲ့ တစ်နေရာကိုရှာတာပဲ မဟုတ်လား”

ကယ်ရီကထပ်ဆွေးနွေးသည်။

“အေး … ငါ ခုမှစဉ်းစားမိတယ်။ ဘောလုံးကိုခြင်းထဲပစ်မထည့်ခင် ငါလုပ်နေကျပဲ။ ငါ့စိတ်ထဲမှာ ဝင်ကို ဝင်ရမယ်လို့ဆိုပြီး ဝင်သွားတဲ့မြင်ကွင်းကိုအရင်မြင်အောင် ကြည့်လိုက်တယ်။ အဲဒီလိုကြည့်နိုင်ရင်ဝင်သွားတာများတယ်”

အင်နာက…

"ဒါဆို နောက်နှစ်မှာ ငါကောလိပ်ရောက်သွားပြီး ဘာသာရပ် အသစ်တွေ၊ သူငယ်ချင်းအသစ်တွေနဲ့ ပျော်နေတဲ့ပုံကို မြင်အောင်ကြည့်နိုင်ရင် အဲဒီအပြောင်းအလဲ တွေကိုဖြတ်သွားနိုင်ရင် ငါခံသာမယ်ပေါ့"

ပစ်ဇာကို တစ်ကိုက်ကိုက်ရင်း ... အင်နာက တက္ကသိုလ် ပရဝဏ်ကိုမှန်းကြည့်လိုက်သည်။

မီလာနီက...

"ကြောက်နေတယ်ဆိုတာ ငါတို့ ဝန်ခံရဲရမယ်။ ခက်တာက တစ်ခါတလေ ငါ ကြောက်နေတယ်ဆိုတာ ငါ မသိသလိုဖြစ်နေတာပဲ။ တခြားဟာတွေနဲ့ ဖုံးဖိထားနေမိလားမသိဘူး"

ပီတာကဝင်မေးသည်။

"ဘယ်လိုဟာတွေနဲ့လဲ"

"ပြီးခဲ့တဲ့ ဆောင်းက အတန်းခေါင်းဆောင်ကောက်ပွဲလိုဟာမျိုးပေါ့"

မီလာနီ့အဖြေကိုကြားတော့ အားလုံး သက်ပြင်းချကြသည်။

ပီတာက ပီဇာကိုနောက်တစ်ကိုက်ကိုက်ရင်း..

"ဒီအကြောင်း ဆက်ပြောဖို့လိုသေးလား"

မီလာနီက....

"လိုတာပေါ့ဟ။ ဒါပေမဲ့ တို့ တခြားရှုထောင့်က ကြည့်ကြရအောင်"

သူ့ရှေ့မှ ပန်းကန်တွေကို ရှေ့တွန်းပို့ပြီး မီလာနီ ဆက်ပြောသည်။

"အတန်းခေါင်းဆောင်ရွေးပွဲမှာငါရလိမ့်မယ်လို့ ကျိန်းသေတွက်ထားတာ သိလား။ ဘာပြုလို့လဲဆိုတော့ ငါက အတန်းထဲမှာ ထိပ်ဆုံးကချည်းနေခဲ့တာလေ။ အတန်း ကိစ္စတွေလည်း ငါဒိုင်ခံလုပ်ပေးခဲ့တာပဲ။ တကယ်တော့ ဒိန်ခဲကို ငါ ပထမဆုံးတွေ့တာ။ မဟုတ်ဘူးလား။ အဲဒါ ငါ့ကိုယ်ငါအထင်ကြီးနေတာ ဖြစ်နိုင်တယ်"

“ဒါဆို ဘာလို့ရှုံးသလဲ။ ဒီဇာတ်လမ်းကိုသာ စောစောစီးစီးငါသိရင် ငါ့ကျဆုံးခန်းကို “မတရားဘူး၊ အဓိပ္ပာယ်မရှိဘူး၊ ဘာဘာညာညာနဲ့ နင်တို့ရှေ့မှာ နားပူနားဆာလုပ်မိမှာမဟုတ်ဘူး”

“ခုတော့ ငါ ပြန်သုံးသပ်တယ်။ ငါက ဟမ်လိုလုပ်လုပ်နေမိတာကိုး။ ရှေ့တည့်တည့် ဒိန်ခဲတွေရောက်အလာကို ထိုင်စောင့်နေတာမျိုးလေ။ ဒိန်ခဲရောက် မလာတော့ တခြားလူတွေကိုအပြစ်ရှာတယ်။ ကဲ နင်တို့အမှန်အတိုင်း ပြောကြစမ်းပါ။ ငါ မဲရှုံးတုန်းက တဗျစ်တောက်တောက် ပြောနေတာဟာ ဟမ်နဲ့ မတူဘူးလား”

ဂျိရှ် ရယ်ပြီးပြောတော့ အားလုံးလိုက်ရယ်ကြသည်။

“နည်းနည်းတော့ တူတယ်။ ဒါပေမဲ့ ငါတို့ အားလုံးလည်း နင့်လို ချည်းပါပဲဟာ။ တို့တတွေ အပြောင်းအလဲကို လူတိုင်းကြောက်နေကြတာပါ။

အပြောင်းအလဲ မှန်သမျှကို အကောင်းဖြစ်လာနိုင်မယ်လို့ မထင်ကြဘူး။ ထိုင်နေအကောင်းသားဆိုတာမျိုးကို ယုံခဲ့ကြတယ်။ တစ်ယောက်ယောက်က အပြောင်းအလဲကို ဘလောင်းဘလလို့ပြောရင် အားလုံးယုံလိုက်ကြတာပဲ။

မီလာနီ ဆက်ပြောသည်။

"ငါ့ကိုယ်ငါ ဒီဇာတ်လမ်းထဲက ဘယ်သူနဲ့ တူသလဲ စဉ်းစားရင် ရွေးကောက်ပွဲ ဘာလို့ရှုံးတယ်ဆိုတာ ပိုမြင် လာတယ်။ အတန်းခေါင်းဆောင် ဖြစ်လာရင် တက္ကသိုလ် ဝင်ခွင့်မှာ ပိုအထောက်အကူရမယ် ထင်ခဲ့တာကိုး။

အဲဒီ့မှာ ဒိန်ခဲပုံကြီးနားထိုင်ပြီး ဇိမ်ယူနေမိတယ်။ ဝက်ပါအပြင်ဘက်ရောက်မှ အနံ့ခံမယ်၊ အမြန်ပြေးမယ်ပေါ့။ ကျောင်းသားတိုင်း ဖြစ်ချင်နေတဲ့ အတန်းခေါင်းဆောင်ဆိုတာ ငါသာ ဟောနဲ့တူခဲ့ရင် ငါလုပ်တာတွေ မှားနေတယ်ဆိုတာ သိမှာသေချာတယ်။ ငါ့ကိုယ်ငါ ပြန်ပြီးရယ်မိ မှာလည်းသေချာတယ်။

ငါ လုပ်နေတာတွေကို ချက်ချင်း ပြင်ပစ်ရမှာပဲ။ ဒါပေမဲ့ငါအဲဒီလိုမလုပ်ခဲ့ဘူး။ ဘယ်လောက် အသုံး မကျတဲ့ ငါလဲ"

မီလာနီပြောပြီးခေါင်းရမ်းလိုက်သည်။

"ဟေး နောက်နှစ်ဆိုတာ အမြဲရှိသေးတယ်လေ။"

ကယ်ရီဝင်ပြောလိုက်တာပါ။

ပီတာက ရယ်ပြီး ..

"ဒါဆို ဟောကို အတန်းခေါင်းဆောင်လို့ ခေါ်ရတော့မယ်ပေါ့"

သည်တော့မှ မီလာနီပြုံးလာသည်။

ဂျို့ရှ်က နေ့လယ်စာစားကတည်းက သူ့ခေါင်းထဲမှာ မရှင်းသည့် ကိစ္စကို ဖွင့်မေးလိုက်သည်။

"ဟမ်ဟာ ပြောင်းလဲလာပြီး ဒိန်ခဲအသစ်ကို တွေ့လိမ့်မယ်လို့မင်းတို့ထင်သလား"

အင်နာကဝင်ဖြေသည်။

"ငါတော့မထင်ဘူး။ တချို့လူတွေဟာ လှေနံခေါးထစ်တွေ ဘယ်တော့မှမပြောင်းလဲဘူး။ အဲဒီအတွက် ခံစရာရှိလည်း လည်စင်းခံကြတယ်"

မီလာနီက သူငယ်ချင်းအားလုံးကို ပြောပြသည်။

"တို့ဘာသာတို့ ပြန်ကြည့်ရအောင်။ တို့အားလုံး ဒိန်ခဲနဲ့အတူ လိုက်မရွေ့ခဲ့ကြဘူး။ အဲဒါကြောင့် တို့အားလုံးလိုလို ကံမကောင်းခဲ့ကြဘူးလေ"

ပီတာက အတွေးနက်နေဆဲပုံစံမျိုးဖြင့် ..

"သွားစမ်းပါဟာ။ နင်တို့က အတွေးခေါင်လွန်းနေတာပါ။ အပြောင်းအလဲဆိုတာ တစ်သက်မှာ တစ်ခါဖြစ်တာမျိုး မဟုတ်ဘူး။ နေ့တိုင်းဖြစ်နေတာ။ ဒီဒိန်ခဲဇာတ်လမ်း မပေါ်ခင်ကတည်းက ဆယ့်ခြောက်နှစ်လုံးလုံး ငါကြုံခဲ့တာပဲ။ ဘာမှမဖြစ်ပါဘူး"

မီလာနီ သိပ်လက်မခံချင်။

"နင်ပြောတဲ့ အပြောင်းအလဲက အသေးအဖွဲ ကလေးတွေ ဖြစ်မှာပေါ့။ တကယ့်အပြောင်း အလဲကြီး တွေနဲ့ကြုံလာရင်ကော"

ကယ်ရီကဖြတ်ပြောသည်။

"ဒီနေ့ ကျောင်းမှာ တို့ကြုံခဲ့တဲ့ အပြောင်းအလဲ ကို ကြည့်ရအောင်။ ဒီလိုဖြစ်လာမယ်လို့တို့ တစ် ယောက်မှ အနံ့မရခဲ့ဘူး။ စနစ်သစ်နောက်ကို ပြေးလိုက် ပြီး စုံစမ်းမယ့်လူလည်းမရှိဘူး။ ဒိန်ခဲပုံကြီးနားမှာပဲ ဝိုင်းထိုင်နေကြတယ်။ ကျောင်းစားသောက်ဆိုင်မှာ စုပြီး မကျေနပ်တာ တွေချည်းလျှောက်ပြောနေကြတယ်"

အင်နာကကယ်ရီကိုထောက်ခံသည်။

"နင်ပြောတာ ဟုတ်တယ် ကယ်ရီ။ ငါ နောက်မှ ကြားတာ။ တချို့ကလေးတွေ ရုံးခန်းကို သွားပြီး စုံစမ်း ကြတယ်တဲ့။ သူတို့လိုချင်တဲ့အချိန်ကို ပြောပြီးတောင်းတာ ရသွားကြတယ်တဲ့။ သူတို့တွေဟာ စကားရီး တွေပဲ။ တို့က ဟမ့်လိုလက်နှေးတော့ တို့နဲ့ မကိုက်တဲ့ အချိန်တွေနဲ့ ညားကုန်တာပေါ့"

ခရစ်ကကျိတ်ပြီး ဝမ်းသာနေသည်။ သူငယ်ချင်းတွေ ဒိန်ခဲကို သုံးနေကြပြီမဟုတ်လား။ ဘယ်လောက် စိတ်ဝင်စားဖို့ကောင်းလဲ။

ပီတာက ဟိုကြည့်သည်ကြည့်လုပ်ပြီး..

"ကားလ်တစ်ယောက် ... တကယ်ပေါ်မလာဘူးနော်"

"သူ တီဗီကြည့်မယ်လို့ ပြောသွားသားပဲ။ သူ့ကြည့်ရတာ ဒိန်ခဲဇာတ်လမ်းကို စိတ်မဝင်စားမှန်းသိသာပါ တယ်ဟာ။ တကယ်တော့ သူက ပိုပြီးလေ့လာဖို့ ကောင်းတာ"

ကယ်ရီကဝင်ရှင်းပြသည်။

မီလာနီကခေါင်းညိတ်ပြီး..

"ကားလ် ဘာလို့မလာလဲဆိုတာ ငါသိတယ်။ ဇာတ်လမ်းထဲမှာ တော်တော်ရိုက်ချက်ပြင်းတဲ့ မေးခွန်းတွေပါတယ်။ ဥပမာ ဒိန်ခဲဟောင်းကို ဘာလို့စွန့်လွှတ်ရမှာလဲ၊ ဒိန်ခဲသစ်နဲ့အတူ ဘာလို့လိုက်ရွှေ့ရမှာလဲ ဆိုတဲ့

မေးခွန်းမျိုးတွေကို သူ လောလောဆယ် စဉ်းစားချင်မှာ မဟုတ်ဘူး”

ကယ်ရီက ...

“ကားလ်ကိုကြည့်ပြီး ငါ့မိဘတွေ ဒီပြောင်း လာဖို့ ဆုံးဖြတ်တဲ့အချိန်ကို သွားသတိရတယ်။ ငါက သူငယ်ချင်းတွေနဲ့ ဘယ်ခွဲချင်ပါ့မလဲဟာ။ ငါ အကြောက်အကန်ငြင်း တာပေါ့။ လုံးဝဆန့်ကျင်တာပေါ့”

အင်နာက ရယ်ပြီး....

“ငါမှတ်မိပါတယ်ဟယ်။ နင် ကျောင်းရောက်စက ဘယ်သူနဲ့မှ စကားမပြောဘူးလေ”

ကယ်ရီက ရှက်လွန်းလို့ မျက်နှာကို လက်ဝါး နှင့် အုပ်ပြီး တခစ်ခစ်ရယ်နေသည်။ ပြီးတော့ မှဝန်ခံသည်။

“ဟုတ်တယ်။ ပတ်ဝန်းကျင်သစ်မှာ အလိုက် အထိုက်နေရမှန်း မသိဘဲ ငါကလေးဆိုးကြီးလို လုပ်နေခဲ့တယ်။ အဖေနဲ့ အမေကိုလည်း နေ့တိုင်း

ငါကောတယ်။ ဆရာမ ကျောင်းခေါ်ချိန်မှာတောင် ငါ့နာမည်ခေါ်ရင် မထူးဘူး”

ပီတာက...

“ဟုတ်လား။ အဲဒါငါမသိဘူး”

ဂျိုရှ်ကလည်းပီတာ့ကိုထောက်ခံသည်။

“အေးကွ။ ငါလည်း မသိဘူး။ ခုတော့ အတန်းထဲမှာ သူစကား အများဆုံးပဲ”

ကယ်ရီက စားပွဲအောက်မှ ဂျိုရှ်၏ ညိုသကြီးကိုကန်ထည့်လိုက်ပြီး...

“အေး ငါသာ ပတ်ဝန်းကျင်ဟောင်းကို ထားခဲ့ပြီး ရောက်တဲ့နေရာမှာ အထာကျအောင် နေတတ်ရင် အဲဒီလိုဖြစ်မှာ မဟုတ်ဘူးနော်”

အင်နာကဝင်ပြီး မှတ်ချက်ပေးသည်။

“နင့်ဒိန်ခဲက ရွှေ့သွားပြီ။ အဲဒါကို နင် သဘောပေါက်တော့။ သူငယ်ချင်းတွေအများကြီး ပြန်ရလာတာပေါ့။ ငါလည်းအတူတူပါပဲ”

ပီတာက ထပ်ဖြည့်သေးသည်။

"ဒါတင်မကသေးဘူးလေ။ နင် ပြောဖူးတယ်။ နင်တို့မြို့က ငယ်သူငယ်ချင်းတွေ နဲ့လည်း ချစ်တုန်း ခင်တုန်းဆို။ ဒါဆို သိပ်ကောင်းတာပေါ့။ မဟုတ်ဘူး လား"

"ဟုတ်ပါတယ်။ နင်ပြောတာ မှန်ပါတယ်။ ဒါပေမဲ့ ငါလုပ်ခဲ့တာတွေ တွေးမိရင် သိပ်ရှက်တာပဲ။ အဖေနဲ့ အမေ့အပေါ်မှာလည်းငါဆိုးခဲ့တယ်လေ"

ကယ်ရီက နောင်တကြီးစွာနှင့် ပြောနေခြင်း ဖြစ်သည်။

အင်နာက ပစ်ဇာတစ်ပိုင်းကို ပြန်ချပြီး….

"ဒီဇာတ်လမ်းကြားပြီး ဂေဗင်ကို ငါ သတိရ နေတယ်"

အားလုံးငြိမ်ကျသွားသည်။ ဂေဗင်ဆိုတာ အင် နာနှင့်တွဲနေတဲ့ ကောင်လေး။ ခုတော့ သူတို့ခွာပြဲ သွားကြပြီ။ တစ်နှစ်တွဲပြီးမှ ကောင်လေးက သူ့ကို

ထားခဲ့တာ။ အင်နာက ချစ်သူပြန်အလာကို စောင့်သေးသည်။ ပြန်တွဲဖို့ကြိုး စားသေးသည်။ မရခဲ့ဘူး။ နှလုံးသား ဒဏ်ရာကို အင်နာ တစ်ယောက် အတော်လေး ရယူလိုက်ရသည်။ အင်နာ ဆက်ရှင်းပြသည်။

"ငါ ဘယ်သူ့ကိုမှ ဝန်မခံတာတစ်ခုရှိတယ်။ ငါ့ကိုယ်ငါတောင် ဝန်မခံခဲ့ဘူး။ တို့ဇာတ်လမ်းက အစမကောင်းခဲ့ဘူး"

"ဒါဆို ဒိန်ခဲက အစကတည်းက မှိုတက်နေတာပေါ့"

ဂျိုန်က ဝင်အရွှန်းဖောက်တော့ ... အားလုံး ဝိုင်းရယ်ကြသည်။

အင်နာက သူ့ဇာတ်လမ်းကို ဆက်သည်။

"ငါက အဲဒီတုန်းက သူ့ကို အရူးအမူးဖြစ်နေချိန်ပေါ့ဟယ်။ သူ့လို ပျိုတိုင်းကြိုက်တဲ့နှင်းဆီခိုင်နဲ့တွဲရတာ ငါ့အတွက် ဂုဏ်ရှိတယ်လို့တောင် ထင်နေသေးတယ်လေ။ ဂေဗင်က စနစ်ဖ်နဲ့ တူတယ်။ ရှေ့မှာကြုံရမယ့် ပြဿနာတွေကို သူ ကြိုမြင်တယ်။

သိပ်လျင်တယ်။ ငါ့ကို ပြောတဲ့ ဆိုတဲ့နေရာမှာ ဟော အတိုင်းပဲ။ ငါကတော့ ဟမ်နဲ့ တစ်ပုံစံတည်းပဲ။ သူပြော တာတွေ ငါ နားမဝင်ဘူး။ နောက်ဆုံးတော့ ဒိန်ခဲ အဟောင်းပုံကြီးနားမှာ ငါ့ကိုထားခဲ့ပြီး ထွက်သွား တော့တာပဲ။ အဲဒီ့အချိန်မှာ သူ ဒိန်ခဲသစ်တွေ့နေပြီလေ”

ပီတာဝင်ဆွေးနွေးသည်။

“တစ်ခါတလေမှာ အပြောင်းအလဲဆိုတာဟာ ဒိန်ခဲလိုပဲ။ ပေါ်ချင်ပေါ်လာတယ်။ နောက်ဆုံး ပျောက်ချင် ပျောက်သွားတယ်”

ကယ်ရီဝင်ထောက်ပြန်သည်။

“ဘယ်သူမှ ဒိန်ခဲဟောင်းနဲ့ချည်း ညားမနေပါ ဘူးဟာ”

အင်နာက သက်ပြင်းချပြီး…

“အေး….နင်ပြောတာဟုတ်တယ်ကယ်ရီ”

“ဒိန်ခဲအဟောင်းဆိုတာ ဘာနဲ့တူလဲ သိလား။ နိစ္စရူဝ တို့တွေ တွေ့ထိလုပ်ကိုင်နေတဲ့ အလုပ်ပဲ။

ဒါပေမဲ့ အဲဒီ့အလုပ်ကို ဘယ်သူမှ သတိမထားမိကြဘူး။ တို့ရပ်ပစ်ရမယ့် အရိုးစွဲနေတဲ့ အမူအကျင့်တွေနဲ့ တူတယ်”

မီလာနီ အလေးအနက် ဆွေးနွေးခြင်း ဖြစ်သည်။

ဤတွင် ပီတာက ကြက်ခေါင်းဆိတ်မခံ ချက်ချင်း ပြန်တုံ့ပြန်တော့သည်။

“နင်တို့တွေက ငါ့ကို အမြဲဝိုင်းပြောကြတယ်။ ငါက နေရာတကာ အလေးအနက်ထားလွန်းတယ်တဲ့။ သူများတွေ တွေးပူနေတာတွေကို ငါ မပူရဘူးတဲ့။ ဒါဆို ငါပြောမယ်။ အဲဒါဟာ ငါ့ဒိန်ခဲအဟောင်းဆိုရင် အဲဒီ့လို မတွေးလို့မရဘူး”

ကယ်ရီ အကြံပြုသည်။

“အကြောက်တရားတွေကို ရပ်ပစ်လိုက်ရင် နင် သက်သာသွားမယ် ထင်တယ်။ ဟောကတော့ အဲဒီနည်းနဲ့ အလုပ်ဖြစ်သွားတယ်လေ”

ပီတာကခေါင်းရမ်းပြီး…

“ငါက ရယ်မှမရယ်ချင်တာ။ ဂီတပညာရှင်တွေလို၊ ငါက ဘာမဆို အလေးအနက်ထားချင်တာ။ ငါ ဂီတာတီးတာ ဝါသနာပါတယ်။ ဒါပေမဲ့ ပါရမီ မရှိဘူးလို့ ငါ့ကိုယ်ငါ ထင်နေတယ်။ နောက်ဆုံး စင်ပေါ်တက်တီးခွင့်ရရင်လည်း အိုးနင်းခွက်နင်းတွေ ဖြစ်ကုန်မှာပဲ”

အင်နာက သူ့ကို မေးခွန်းထုတ်သည်။

“မီလာနီပြောတာနင်မှတ်မိလား။ သူ့စိတ်ထဲမှာ သူ့ဘာသာသူ ပုံဖော်တာလေ။ ဒိန်ခဲအသစ်တွေကို သူဝါးနေတဲ့ပုံကို မြင်အောင်ကြည့်တာလေ။ အဲဒီမှာ သူ့စိတ်တွေ အရမ်းပေါ့ပါးသွားတယ်။

ဝက်ပါထဲမှာ ထွက်ပေါက်ရှာတွေ့ သွားတယ်။ ဒီမယ်ပီတာ၊ နင်လည်း ဒိန်ခဲသစ်ကို စိတ်ကူးပန်းချီဆွဲကြည့်ပါလား”

ပီတာကပြန်မေးသည်။

"ဘာလဲ၊ ဂီတပွဲတော်ကြီးတစ်ခုမှာ စင်ပေါ် တက်ပြီး ငါဂီတာတီးနေတဲ့ပုံလား"

ခရစ်ကဝင်ထောက်သည်။

"ဒါပေါ့။ မင်းပဲ ပြောတယ်လေ။ အပြောင်း အလဲကိုမကြောက်တော့ဘူးဆိုရင် မင်းလုပ်ရဲတယ်ဆို"

ပီတာဝန်ခံသည်။

"မင်းပြောတာ မှန်တယ်ခရစ်။ အဲဒီ့လိုကြောက် နေလို့ အောင်မြင်မှုနဲ့ ငါဝေးနေတာ။ အဲဒါ ငါ တုံးတာပဲ။ ဟမ့်လိုဒိန်ခဲနားမှာ တဝဲလည်လည်ဖြစ်နေတာပဲ"

မီလာနီ ဝင်လာပြန်သည်။

"နင် ကိုယ်ပိုင် တီးဝိုင်း ထောင်ပါလား။ အဲဒါ ဟောလုပ်သွားတာလေ။ သူ ရေးသွားတယ် မဟုတ် လား။ "ဒိန်ခဲနဲ့အတူ နေရာလိုက်ပြောင်းပါ။ ပြီးတော့မှ အပိုင်ယူပါ" ဆိုတာလေ။ အပြောင်းအလဲကို နင်ကိုယ်တိုင်လုပ်တာ မဟုတ်ရင် ဘာမှ ကြောက်စရာ မလိုတော့ဘူး"

ကယ်ရီက ...

"ငါ အကြံတစ်ခုရပြီ။ ငါတို့တွေ တို့လိုချင်တာထက်ပိုကောင်းတဲ့ အကြောင်းအရာတစ်ခုခုကို စဉ်းစားကြရအောင်လား။ အဲဒါကို တို့ရဲ့ ဒိန်ခဲသစ်လို့ သတ်မှတ်လိုက် မယ်လေ။ အဲဒီအကြောင်း မနက်ဖြန် နေ့လယ်စာစားချိန်မှာ ပြန်ဆွေးနွေးမယ်"

ခရစ်ကထောက်ခံသည်။

"အေး ... ကောင်းတယ်။ ကားလ်ကိုပါ ရအောင် ခေါ်မယ်ကွာ။ သူက အမြဲတင်းလွန်းတယ်ဆိုတာ ငါသိတယ်။ အဲဒါဟာ တို့တတွေထက် သူက ပိုကြောက်နေလို့ကွ"

"ဟုတ်ပြီ၊ အေးဆေးပေါ့။ ငါလည်း အိမ်ပြန်ရောက်ရင် အဖေနဲ့ အမေကို ဒီဇာတ်လမ်းပြောပြမယ်။ အစ်မတွေကိုလည်း ထိုင်နားထောင် ခိုင်းမယ်။ ပြီးတော့မှ သူတို့ကို မေးမယ်။ ဘယ်သူဟာ ဘယ်သူနဲ့ တူသလဲလို့။ အဲဒါဟာ တို့မိသားစုရဲ့ ဒိန်ခဲသစ် ဖြစ်နိုင်တယ်"

ဂျိုရှ်ကဝင်နောက်ပြန်သည်။

"ရေခဲသေတ္တာထဲက ဒိန်ခဲဖြစ်ပါစေလို့ ငါ ဆုတောင်းပါတယ်ဟာ။ မဟုတ်ရင် ပုံပျက်ပန်းပျက်ဖြစ်နေမှာ"

မီလာနီက သူ့လက်ပတ်နာရီကို ငုံ့ကြည့်လိုက်သည်။

"ဟယ် ... တော်တော်နောက်ကျနေပြီပဲ။ ဒီအချိန်ငါအိမ်ပြန်ရောက်ရမှာ"

မီလာနီက သူ့အမေကို ဖုန်းခေါ်နေတုန်း ကျန်သူ ငယ်ချင်းများက စုပြီးပိုက်ဆံရှင်းလိုက်ကြသည်။ စိတ်ရှည် လက်ရှည်နှင့် သဘောကောင်းသည့် စားပွဲထိုး အမျိုးသမီးအတွက် မီလာနီက ဘောက်ဆူးကောင်းကောင်း ပေးခဲ့သည်။

ဂျိုရှ်က လက်နှစ်ဖက်မြှောက်ပြီး သမ်းရင်း..

"အဲဒီဒိန်ခဲတွေရှိတဲ့ ဝက်ပါကို ဖောက်ခွဲဖျက်ဆီး ပစ်ရမယ်"

အင်နာက သူ့ကို ခပ်နောက်နောက်မေးသည်။

"နင့်ကားနဲ့ ငါ လိုက်ခဲ့မယ်။ ဝက်ပါထဲကို နင် ဖြတ်မောင်းရမယ်နော်"

ကယ်ရီက ပီတာ့ကို လှမ်းမေးသည်။

"ငါလည်းလိုက်မယ်။ နင်ကောပီတာ"

"ငါလမ်းလျှောက်ပြန်တော့မယ်။ ငါ့မှာ စဉ်းစား စရာတွေရှိသေးတယ်"

သူငယ်ချင်းတစ်သိုက် အသီးသီးနှုတ်ဆက်ပြီး လမ်းခွဲကြသည်။ မနက်ဖြန် သည်အကြောင်း ပြန်ဆွေး နွေးဖို့ အပေါင်းအသင်းများအား ဒိန်ခဲဇာတ်လမ်း ပြန်ဖောက်သည်ချဖို့ စိတ်စောနေကြသည်လေ။

ဂျိုရှ်က ဆိုင်ထဲမှအထွက်တွင် ခရစ်ကို လှမ်း ဖက်ပြီး ဆွဲမြှောက်လိုက်တယ်။ ဂျိုရှ်က သူ့ခင်မင်မှုကို ဘယ်တုန်းကမှ သည်လိုမပြခဲ့ဘူး။ ခရစ်က မေးလိုက် တယ်။

"ဘာအတွက်လဲကွ ဂျိုရှ်"

ဂျိုရှ်ကပြုံးပြီး ..

“ဒီနိုခဲဇာတ်လမ်းအတွက် ကျေးဇူးတင်ပါတယ် သူငယ်ချင်း”

ခရစ်ကလည်း ပြန်ပြုံးပြီး..

“မလိုပါဘူးကွာ”

ဟု ပြန်ပြောရင်း သူငယ်ချင်းအားလုံး မဟုတ်တောင် တချို့ပြောင်းလဲ လာတော့မှာမို့ သူကျေနပ်နေသည်။

ဂျိုရှ်တစ်ယောက် သူ့အဖေကိစ္စ သူ့အဖေကို စွန့်လွှတ်လိုက်ရသည့် ကိစ္စနှင့်ပတ်သက်ပြီး မေ့ပျောက်ဖို့ကြိုးစားမှာ သေချာသည်။ အောင်မြင်ပါ့မလား။ အင်နာ တစ်ယောက် ကောလိပ်ဆက်တက်ဖို့ကိစ္စ ချောမောပါ့ မလား။ ကိုယ့်ကိုယ်ကို သံသယတွေ ပွားနေသည့် ပီတာ တစ်ယောက် အားလုံးကိုကျော်ဖြတ်နိုင်ပါ့မလား။

ပြီးတော့ မီလာနီနဲ့ ကယ်ရီကော၊ ကားလ်တစ်ယောက်ကော အပြောင်းအလဲကို ကျော်လွှားပြီး အသက်မွေးဝမ်းကျောင်း ပညာတစ်ခုခုကို ဆက်လက်ဆည်းပူးနိုင်ပါ့မလား။

သူက စက်မှုလက်မှုဘာသာရပ်မှာ အဟုတ်ကျွမ်းသည့်ကောင်။

နောက်ဆုံးတော့ ခရစ် သဘောပေါက်လိုက်သည်။ ခရစ်တစ်ယောက် သူ့ကြမ္မာကို သူဖန်တီးရမှာပဲ။

ဒိန်ခဲနဲ့အတူ ဘယ်သူတွေ လိုက်ရွှေ့နိုင်ကြမှာလဲ။ ခရစ်မသေချာပါ။

ဘယ်သူတွေ အောင်မြင်လို့ ဘယ်သူတွေကျန်ခဲ့ ကျန်ခဲ့၊ သူကတော့ လက်တွဲမဖြုတ်တမ်းနေသွားဖို့ သေချာနေပါသည်။ သူတို့နဲ့အတူ အောင်မြင်မှုကို အရသာခံဖို့အသင့်ဖြစ်နေတာ သူ့ကိုယ်သူသိနေသည်။

**တင်မောင်မြင့်**